IBM

# SPSS






# စာရင်းအင်း ဒေတာဆန်းစစ်နည်း

## STATISTICAL DATA ANALYSIS

## Using SPSS 25 Version For Windows




ဆရာရွှေလင်း (သုတေသီ)

SPSS 25 Software နှင့် လေ့ကျင့်ခန်းများ DVD ပါဝင်သည်

# SPSS




# စာရင်းအင်း ဒေတာဆန်းစစ်နည်း

## Statistical Data Analysis

Using SPSS 25 Version For Windows

ဆရာရွှေလင်း (သုတေသီ)

1 A

# ပုံနှိပ်မှတ်တမ်း

•••••

| | | |
|---|---|---|
| **ထုတ်ဝေသည့်အကြိမ်** | - | ပထမအကြိမ် |
| **ထုတ်ဝေသည့်ကာလ** | - | ဖေဖော်ဝါရီ၊ ၂၀၂၀ |
| **မျက်နှာဖုံးဒီဇိုင်းနှင့် အပြင်အဆင်** | - | မိုးယံ (မိတ္တူ/ကွန်ပျူတာ) |
| **မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်** | - | ဦးတင်အောင်ကျော်<br>စွယ်တော်ပုံနှိပ်တိုက်(၀၀၄၁၁)<br>အမှတ်-၁၄၇၊ ၅၁လမ်း(အထက်)<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| **ထုတ်ဝေသူ** | - | ဦးဦးမောင်ကြီး<br>CLR စာပေတိုက်(၀၂၇၅၀)<br>အမှတ် ၆၀၊ တတိယထပ်(အေ)<br>လှည်းတန်းလမ်းမကြီး၊ ကမာရွတ်မြို့နယ်၊<br>ရန်ကုန်မြို့။ |
| **ဖြန့်ချီရေး & သင်တန်းတည်နေရာ** | - | CLR သုတေသနစာပေဖြန့်ချိရေး<br>အမှတ်(၆၀) တတိယထပ်(ဗ-၄)၊ လှည်းတန်းလမ်းမကြီး၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>၀၉-၄၅၉၉၄၁၄၈၁၊ ၀၉-၄၂၉၅၃၁၇၃၁ |
| **တန်ဖိုး** | - | ၁၀၀၀၀ ကျပ် |
| **အုပ်ရေ** | - | ၂၀၀၀ - |

၆၀၀

ရွှေလင်း(သုတေသီ)

SPSS ဖြင့်စာရင်းအင်း ဒေတာဆန်းစစ်နည်း၊ ရွှေလင်း(သုတေသီ)၊ ပထမကြိမ်၊ ရန်ကုန်။

CLR စာပေ၊ ၂၀၂၀ ပြည့်နှစ်

၃၀၄ – စာ၊ ၁၈.၈ × ၂၆.၇ စင်တီ။

၁။ SPSS ဖြင့် စာရင်းအင်း ဒေတာဆန်းစစ်နည်း


1 B

E

## ဦးညွတ်ကန်တော့ခြင်း



ဤစာအုပ်ဖြင့်

( ဖခင် ဦးမောင်သန်း - မိခင် ဒေါ်စောသာနု(ခ) ဆရာလေး ပညာသင်္ဂီ) တို့၏

ဂုဏ်ကျေးဇူးများကို အစဉ်အောက်မေ့သတိရလျက်

ဦးညွတ် ကန်တော့ပါ၏။

# ကျေးဇူးတင်လွှာ

ယခု **SPSS** ဖြင့် စာရင်းအင်းဒေတာဆန်းစစ်နည်း စာအုပ်အား စိတ်ရှည်လက်ရှည် စာစီပေး ပါသော မိုးယံ ကွန်ပျူတာ မိတ္တူဆိုင်မှ ဝန်ထမ်းများ အားလည်းကောင်း၊ စာအုပ်ဖြစ်မြောက်ရေးအတွက် လိုအပ်သည့် အချက်အလက်များကို ကူညီပေးပေါ်သော ( CLR ) ရဲ့ အထွေထွေမန်နေဂျာ ကိုမင်းမင်းအား လည်းကောင်း၊ အဖက်ဖက်မှ ဝိုင်းဝန်းကူညီ ပေးကြသူများအားလုံးကို အထူးကျေးဇူးတင်ရှိပါကြောင်း ဤစာအုပ်ဖြင့် မှတ်တမ်းတင် အပ်ပါသည်။

စာရေးသူ

ရွှေလင်း

***Researcher & Principal***

***CLR-Research Training Centre***

# မာတိကာ

အခန်း (၁)



အခန်း (၂)

t ce; (1)

# SPSS မိတ်ဆက်နှင့်

# သရုပ်ပြသုတေသန စာရင်းအင်းပညာ

## (Inferential Statistics)

# စာရင်းအင်းဆိုင်ရာ နိဒါန်း နှင့် အမှာစာ

ယခုအခါတွင် စာရင်းအင်းပညာရပ်ကို ပညာရေး၊ စီးပွားရေး၊ ဆေးပညာ၊ ကုန်ထုတ်ဓာတုဗေဒ၊ အင်ဂျင်နီယာ၊ ကွန်ပျူတာ၊ ခရီးသွားသုတေသန ၊လူမှုရေးသုတေသန စသည့် နယ်ပယ်အသီးသီးတို့၏ ဒေတာဆန်းစစ်ခြင်းလုပ်ငန်းများတွင် အသုံးပြုလျှက်ရှိပြီး သိပ္ပံနည်းကျသုတေသနပြုလုပ်ရာတွင် တကယ့်အရေးပါသော ဘာသာရပ်တစ်ခုဖြစ်သည်။ ထို့အပြင် လက်ရှိလူမှုရေးလုပ်ငန်းများတွင် ကြုံတွေ့နေရသော ပြဿနာများကို ဖြေရှင်းဖို့ရန်လည်း ၎င်းစာရင်းအင်းပညာရပ်ကို အသုံးပြုကြသလို မည်သည့်နယ်ပယ် တွင်မဆို (ဥပမာ- မိုးလေဝသ ထုတ်ပြန်မှု အနာဂါတ်စီးပွားရေးကြိုတင်ခန့်မှန်းချက်၊ စိုက်ပျိုးရေးဟောကိန်း စသည့်) အနာဂါတ် ကြိုတင်ခန့်မှန်းမှုများပြုလုပ်ကြသည့်အခါလည်း အလွန်အသုံးတည့်သော ဘာသာရပ်တစ်ခုဖြစ်သည်။

စာရင်းသင်္ချာကို ရှင်းလင်းချက် (၂)ခုဖြင့် ဖွင့်ဆိုထားကြသည်။ - နံပါတ်(၁) စာရင်းအင်းပညာဆိုသည်မှာ ဒေတာများကို သတင်းအချက်အလက်များအဖြစ် ပြောင်းလဲပေးသောအရာဖြစ်သည်။ နံပါတ်(၂) စာရင်းအင်းပညာဆိုသည်မှာ နမူနာမှ ရည်ရွယ်ဦးရေကို ကောက်ချက်ချခြင်းများပြုလုပ်ရသည့်အရာဖြစ်သည်။

အထက်ပါ ရှင်းလင်းချက်(၂)ခုသည် ကွဲပြားခြားနားကြသည်။ ၎င်းတို့သည် စာရင်းအင်းသင်္ချာနှင့်ပတ်သက်ပြီး ကျွန်ုပ်တို့လေ့လာသင်ယူရမည့် အရာများကို ခြုံငုံ ဖော်ပြကြသည်။ ပထမအချက် (ဒေတာများကို သတင်းအချက်အလက်များ အဖြစ် ပြောင်းလဲခြင်း) သည် သရုပ်ဖော်သုတေသန စာရင်းပညာရပ်ကို ဖွင့်ဆိုချက်ဖြစ်ပြီး ဒုတိယအချက် (နမူနာမှ ရည်ရွယ်ဦးရေကို ကောက်ချက်ချခြင်း) သည် ကောက်ချက် ချ သုတေသန စာရင်းအင်းပညာ၏ ဖွင့်ဆိုချက်ဖြစ်သည်။ အထက်ပါ (၂)ခုတို့တွင် ဒုတိယ ရှင်းလင်းချက်ကို ကောင်းမွန်စွာနားလည်ဖို့အတွက် ပထမရှင်းလင်းချက်ကို ကြိုတင်သိရှိ နားလည်ဖို့လိုအပ်သည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် ကောက်ချက်ချသုတေသန စာရင်းအင်း ပညာရပ်ကိုမလေ့လာမှီ သရုပ်ဖော်သုတေသန စာရင်းအင်း ပညာရပ်ကို လေ့လာရပေလိမ့်မည်။

ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ပညာရေးကို တိုးတက်လိုကြသည်၊ စီးပွားရေးကိုလည်း ကောင်းမွန်လိုကြသည်။ နည်းပညာများ မြင့်မားလိုကြသည်။ လူ့ဘောင်အသိုက် အဝန်းကိုလည်း

ငြိမ်းချမ်းသာယာလိုကြသည်၊ ကျန်းမာသော လူ့အဖွဲ့အစည်းများ ဖြစ်စေလိုကြသည်။ အခြားသော နိုင်ငံများ၊ နိုင်ငံတကာအဖွဲ့အစည်းများနှင့်လည်း ကဏ္ဍဆိုင်ရာအသီးသီးတို့တွင် ရင်ဘောင်တန်းကာ ပြုဆောင်ရွက်လိုကြသည်။ သို့အတွက် ကျွန်ုပ်တို့ လူ့ဘောင်အသိုက်အဝန်း၏ မည်သည့်နေရာများတွင် မည်သည့် လိုအပ်ချက် များရှိနေသည်၊ အားနည်းချက်များရှိနေသည်၊ ပိုလျှံနေသည်ဆိုသည်ကို သိရှိဖို့လိုအပ်သည်။ စာရင်းအင်းပညာရပ်သည် ၄င်းတို့အခန်းကဏ္ဍများ၏ အားနည်းချက်၊ အားသာချက်များကို ကိန်းဂဏန်းဖြင့် တိတိကျကျ ဖော်ထုတ်ရာတွင် ကူညီလုပ်ဆောင်ပေးနိုင်သည်။ ထို့အပြင် လက်ရှိကြုံတွေ့နေရသော ပြဿနာများကို ဖြေရှင်းဖို့ရန်အတွက် ဖြစ်နိုင်သည့် နည်းလမ်းကောင်း များကိုလည်း လမ်းညွှန်ပေးသည်။

စာရင်းအင်းသည် ဒေတာများနှင့် အလုပ်လုပ်ရသည့် ပညာရပ်ဖြစ်သည်။ အမှန်တကယ်တွင် ဒေတာသည် ကိန်းဂဏန်း၊ စကားလုံး၊ ရုပ်ပုံ အသံဖိုင်စသည် သက်သက်မျှသာဖြစ်သည်။ ယင်းတွင် အရည်အသွေးပြည့်ဝသော ဒေတာများ လည်းပါသလို အရည်အသွေး မပြည့်သော ဒေတာများလည်း ရောနှောပါဝင်နေကြသည်။ ၄င်းကို သတင်းအချက်အလက်အဖြစ် ပြုလုပ်နိုင်မှသည် အကြောင်းအရာတစ်ခုအတွက် အလွန်အရေးပါသည့် အရာများဖြစ်လာသည်။ ဉပမာ- ဒေတာတွင် ကိန်းဂဏန်းဖြင့် (၂၀၀)ခုဟု ဖော်ပြထားသည် ဆိုပါစို့ ၄င်းသည် မည်သည့်အရာကိုပြောဆိုထားကြောင်း မသိရှိနိုင်ပေ။ ယင်းကို သတင်းအချက်အလက်များအဖြစ်ပြောင်းပြီး ဖော်ပြသည့်အခါ လူ(၂၀၀) ယောက် (သို့) အမျိုးသမီး (၂၀၀) ယောက် (သို့) အမျိုးသား (၂၀၀) ယောက် (သို့)အရာဝတ္ထု (၂၀၀) ခု စသည်ဖြင့် ဖော်ပြရာ အခန်းကဏ္ဍတစ်ခုနှင့်ပတ်သက်ပြီး ပမာဏမည်မျှရှိကြောင်းကို သိရှိနိုင်သည်။

ယင်းဒေတာများကို သတင်းအချက်အလက်များပြောင်းလဲဖို့ရန် စာရင်းအင်း ဆိုင်ရာ ပညာရပ်ကို အသုံးပြုကြသည်။ ထို့ကြောင့် စာရင်းအင်းဆိုင်ရာ ဒေတာဆန်းစစ်ခြင်း လုပ်ငန်းကို ဒေတာသိပ္ပံပညာ ခေါ်ကြသလို ဒေတာများကို ဆန်းစစ်ကြသည့် သူများကိုလည်း သုတေသီ၊ ဒေတာ ဆန်းစစ်လေ့လာသူ (သို့) ဒေတာသိပ္ပံပညာရှင်ဟု ခေါ်ဆိုကြသည်။ ၄င်းစာရင်းအင်းပညာရပ်များတွင် ကျွမ်းကျင်သည့် ဒေတာသိပ္ပံပညာရှင်တို့ အဆိုအရ “အကြောင်းအရာတစ်ခုနှင့်ပတ်သက်ပြီး မည်မျှပမာဏရှိကြောင်း တိုင်းတာလို့ရနိုင်သည့် ဒေတာများမရှိလျှင် အကောင်အထည် ဖော်ဆောင်ဖို့ရန် ပြုလုပ်နိုင်မည် မဟုတ်ဟု” ဆိုသည်။ ထို့အပြင် နိုင်ငံတစ်ခု မွဲတေရခြင်း အကြောင်းရင်းသည် လက်ရှိဖြစ်ပျက်နေသော အခြေနေကို တိုင်းတာလို့ ရနိုင်သည့် ဒေတာများ လုံလုံလောက်လောက် မရှိခြင်းဖြစ်သည်ဟု ၄င်းတို့က ဆိုကြသည်။

ကဏ္ဍတစ်ခုကို ဖွံ့ဖြိုးအောင် ဆောင်ရွက်ရာတွင် ကိန်းဂဏန်းအချက်အလက် ဒေတာများ ခိုင်ခိုင်မာမာ ရှိခြင်းသည် အလွန်အရေးကြီးသည်။ ထို့ကြောင့် ဒေတာများခိုင်ခိုင်မာမာ မရှိခြင်းသည် နိုင်ငံနှင့်မိမိတို့၏ကဏ္ဍဆိုင်ရာ အသီးသီးတို့ကို ဖွံ့ဖြိုးအောင် ဆောင်ရွက် ရာတွင် အကြီးမားဆုံးသော အခက်ခဲပင်ဖြစ်သည်။ ယင်းနိုင်ငံများ၊ အဖွဲ့အစည်းများ၊ ဌာနများ အနေနှင့် ပြိုင်ဆိုင်မှုများသော (၂၁)ရာစုတွင် ဖွံ့ဖြိုးတိုးတက်ဖို့ အဆင်သင့်မဖြစ်သေး သည့်အခြေနေများနှင့် ဆက်လက်

နှောင့်နှေးကြန့်ကြာ နေဦးမှာသာဖြစ်သည်။ ထို့ကြောင့် (၂၁)ရာစု၏ အပြောင်းအလဲကာလတွင် မိမိတို့၏အခန်းကဏ္ဍများ မနှောင့်နှေးစေရေးအတွက် အချိန်နှင့် တပြေးညီ ဒေတာများကို ကောက်ယူစုဆောင်းကာ စာရင်းအင်းပညာရပ်များကို အသုံးပြုပြီး စနစ်တကျဆန်းစစ်အဖြေရှာရင်း သုတေသနလုပ်ငန်းများ ဖြစ်ထွန်းပေါ်လာဖို့ လိုအပ်ပေလိမ့်မည်။

သုတေသနတွင် မိမိတို့၏ ဒေတာအချက်အလက်များကို နည်းလမ်းမှန်ကန်စွာဖြင့် ဆန်းစစ်ခြင်းများ မပြုလုပ်လျှင် သုတေသီတစ်ယောက် ဖြစ်စေကာမူ ထွက်လာမည့် ရလာဒ်များသည် ဤသို့ဖြစ်မည်ဟု ဆုံးဖြတ်ပေးလို့မရနိုင်ပေ။ ယင်းကြောင့် ထွက်ပေါ်လာမည့် ရလာဒ်များကို မှန်ကန်စွာ ဘာသာပြန်ဆိုပြီး အဆုံးသတ်ဖို့ရန် မည်သို့သော စာရင်းအင်းဆိုင်ရာ နည်းစနစ်များဖြင့် ဆန်းစစ်ရမည်ဆိုသည်ကို ဆုံးဖြတ်ဖို့လိုအပ်သည်။ ယင်းနည်းအားဖြင့် မိမိတို့၏ ရလာဒ်များကို စနစ်တကျ ဘာသာပြန်ဆိုနိုင်မည်ဖြစ်သည်။ စာရင်းအင်းဆိုင်ရာတွင် ဒေတာအချက်အလက်များကို ဆန်းစစ်ဖို့ရန် နည်းလမ်းမြောက်များစွာ ရှိသည်။ ယင်းစနစ်များအနက် SPSS သည်လည်း လူအသုံးများသော နည်းစနစ်တစ်ခုဖြစ်သည်။

ယခု **"SPSS- ဖြင့် စာရင်းအင်း ဒေတာ ဆန်းစစ်နည်း"** စာအုပ်သည် ဒေတာအချက်အလက်များကို နည်းလမ်းမှန်ကန်စွာ ဆန်းစစ်ခြင်း၊ မှန်ကန်စွာ ဘာသာပြန်ဆိုခြင်း၊ မှန်းဆအဖြေကို လက်ခံရမည်လား၊ ငြင်းပယ်ရမည်လားဆိုသည်ကို ဆုံးဖြတ်ချက်ချခြင်းများ ပြုလုပ်ရာတွင် အထောက်အကူပြုနိုင်မည့် စာအုပ်ဖြစ်သည်။ ယခုစာအုပ်ကို အခန်းပေါင်း (၂)ဖြင့် ဖွဲ့စည်းတင်ပြထားပါသည်။ အခန်းတစ်ခုစီတွင် သက်ဆိုင်ရာ နည်းလမ်းများကို တွက်ချက်နည်း၊ ရလာဒ်များကို ကောက်ချက်ချ ဘာသာပြန်ဆိုနည်းများနှင့် လေ့ကျင့်ခန်းများကို Files ပေါင်းများစွာဖြင့်လည်း ထည့်သွင်း တင်ပြထားပါသည်။ ယင်းကြောင့် ယခုစာအုပ်သည် စာရင်း အင်းဆိုင်ရာ သုတေသန များကိုပြုလုပ်နေကြသော သုတေသန ကျောင်းသား၊ ကျောင်းသူများ၊ ဆရာ၊ဆရာမများ၊ သုတေသီ ပညာရှင်များအတွက် များစွာအထောက်အပံ့ဖြစ်စေလိမ့်မည်ဟု ယုံကြည်မျှော်လင့်မိပါသည်။

လေးစားစွာဖြင့်

ဆရာရွှေလင်း

# SPSS Software အကြောင်း

စာရင်းအင်းပညာ (Statistics) သည် လက်တွေ့ဖြစ်ပျက်နေသော အခြေနေများ၊ အဖြစ်ပျက်များကို အခြေခံကာ အချက်အလက်များကို စုဆောင်းခြင်း (Data collection)၊ စုဆောင်းရမိလာသော ၄င်းအချက်အလက်များကို ဆန်းစစ်ခြင်း (Data analysis)၊ ထွက်ပေါ်လာသော ကိန်းဂဏာန်းများကို ဘာသာပြန်ဆိုခြင်း (Interpretation) ၊ ရှင်းလင်းတင်ပြတင်ပြခြင်း ( Presentation) တို့ဖြစ်သည်။

SPSS သည် - Statistical Package for Social Sciences- ၏ အတိုကောက်စကားလုံး ဖြစ်ပြီး ပညာရေးသုတေသန၊ ဈေးကွက်သုတေသန၊ ကျန်းမာရေးသုတေသန ကုမ္ပဏီများ၏ စစ်တမ်းကောက်သုတေသန ၊အစိုးရဌာနများ၏ သုတေသန ဆိုင်ရာ လုပ်ငန်းများဖြစ်သည့် လူမှုရေး သိပ္ပံဆိုင်ရာ သုတေသနများ၏ စာရင်းအင်းဆိုင်ရာ ဒေတာများကို ဆန်းစစ်ရာတွင် တွင်တွင် ကျယ်ကျယ် အသုံးပြုကြသည့် ဆော့ဝဲစနစ်တစ် ခုဖြစ်သည်။ ၄င်းကို University of Stanford မှ Norman H. Nie, Dale H. Bent နှင့် C. Hadlai Hull. ဟုခေါ်သည့် ကျောင်းသား (၃)ဦးမှ ၁၉၆၈ခုနှစ်တွင် ပထမဆုံး စတင်ဖန်တီးခဲ့ကြသည်။ ထို့နောက် ၂၀၀၉ ခုနှစ်တွင် IBM Corporation မှ ရယူခဲ့သည့်အတွက် IBM SPSS Software ဟု လူသိများလာခဲ့သည်။

## စာရင်းအမျိုးအစား

၄င်း SPSS တွင် စာရင်းအင်းဆိုင်ရာ လုပ်ဆောင်ချက်များ မြောက်များစွာပါဝင်ပါသည်။ သို့ပေမယ့် သုတေသနအတွက် ဒေတာဆန်းတာဆန်းစစ်ရာတွင် အသုံးပြုသည့် အခန်းကဏ္ဍများကို ပိုင်းခြားကြည့်လျှင် အောက်ပါအတိုင်း အမျိုးအစား (၂)ခုပါဝင်သည်။

၁။ သရုပ်ပြ စာရင်းအင်းပညာ (Descriptive Statistics)

၂။ ကောက်ချက်ချ စာရင်းအင်းပညာ (Inferential Statistics)

သရုပ်ပြစာရင်းအင်းပညာ သည် အကြောင်းအရာတစ်ခုကို ဖော်ထုတ်တင်ပြရာတွင်

ကြိမ်နှုန်း ကြိမ်ရေ (Frequency) ၊ ရာခိုင်နှုန်း( Percentage) များဖြင့်ဖော်ပြခြင်း၊ ဂရပ်တို့ဖြင့် တင်ပြခြင်း၊( Graphic presenting) ၊အကျဉ်းချုံ့တင်ပြခြင်း (Summarization of data) တို့ကို ဖော်ပြသည်။

ကြိမ်နှုန်း၊ ကြိမ်ရေတို့ဖြင့် ဖော်ပြသည့် စာရင်းအင်းမှာလည်း -

၁။ ဒေတာအဆင့် တိုင်းတာမှု(Level of data or measurement of Scale)

၂။ ဗဟိုညွှတ်ကိုင်းတိုင်းတာချက် (Measurement of central tendency)

၃။ ဂရပ်ဖြင့် တင်ပြခြင်း (Graphic presenting : Frequency polygons and Histograms)စသည်တို့ပါဝင်သည်။

ကောက်ချက်ချ စာရင်းအင်းပညာဟူသည် နမူနာမှ ရရှိထားသော သတင်းအချက်အလက်များသည် ရည်ရွယ်ဦးရေနှင့်ပတ်သက်ပြီး အားကိုးထိုက်မှုရှိ၊မရှိ။ တိုင်းတာခြင်း (တနည်း) နမူနာတွင် ရသည့် တန်ဖိုးသည် ရည်ရွယ်ဦးရေနှင့် တူညီမှုရှိ၊မရှိ ဆိုသည်ကို ကောက်ချက်ချခြင်း (တနည်း) မှန်းဆထားသည့် အဆိုပြုချက်နှင့်ပတ်သက်လို့ နမူနာမှ ကောက်ယူရရှိသည့် သတင်းအချက်အလက်များသည် အထောက်အပံ့ဖြစ် မဖြစ်ဆိုသည်ကို ကောက်ချက်ချခြင်းဖြစ်သည်။

အထက်ပါ ဒေတာဆန်းစစ်ချက် (၂)ခုသည် အပြန်အလှန်အားဖြင့် ဆက်နွှယ်မှုရှိသည်။ ကောက်ချက်ချစာရင်းအင်းကို သုံးစွဲသည့်ဆန်းစစ်ချက်တိုင်းတွင် သရုပ်ပြစာရင်းအင်း ဒေတာဆန်းစစ်ချက်များကို အသုံးပြုရသည်။

ယင်း စာရင်းအင်းပညာကို အောက်ပါအတိုင်း အပိုင်း(၃)ပိုင်းဖြင့်လည်း ခွဲခြမ်းထားကြသေးသည်။

၁။ ကိန်းတစ်ခုစီ၏တန်ဖိုး၊ရာခိုင်နှုန်းတို့ကို ဆန်းစစ်ကြည့်ခြင် ( Unbivariate)

၂။ ကိန်း (၂)ခု တို့ကြားဆက်နွှယ်မှု၊ အကျိုးသက်ရောက်မှုတို့ကို လေ့လာဆန်းစစ်ကြည့်ခြင်း (Bivariate analysis)

၃။ (၂)ခုထက်ပိုလွန်သည့်ကိန်းတို့ကြား ဆက်နွှယ်မှု၊ အကျိုးသက်ရောက်မှုတို့ကို ဆန်းစစ်ကြည့်ခြင်း (Multivariate analysis) တို့ဖြစ်သည်။

Descriptive statistics ကို Unbivarite ဟုခေါ်ဆိုပြီး အခြား (၂) နှင့် (၃) အုပ်စုများသည် ကောက်ချက်ချ စာရင်းအင်းပညာ (Inferential statistics) တွင်ပါဝင်သည့် အစိတ်အပိုင်းများ ဖြစ်သည်။

၁။ ကိန်း ရှင်(၂)ခုကြား ဆက်နွှယ်မှုကို စာရင်းအင်းဖြင့် ဆန်းစစ်ခြင်း (**Bivariate**)

ကိန်းရှင် (၂)ခုကြား ဆက်နွှယ်မှုကိုလေ့လာရသည့် သုတေသနတွေမှာ (ဥပမာ အင်္ဂလိပ်စာရေးသည့်နေရာမှာ ယောက်ျားလေးများဟာ မိန်းကလေးများထက် ပိုပြီးတော်ကြပါသလား။)

စာရင်းအင်းပညာရပ်ဖြင့် စစ်ဆေးကြည့်သည့်အခါ သုံးစွဲရသည့် စနစ်များကို Bivariate analysis ဟုခေါ်သည်။

(၁) Bivariate:

- Paired sample t test,
- Independent sample t –test
- Repeated One way ANOVA
- One way ANOVA
- Pearson correlation
- Chi-Square
- Kendall Rank Taub Correlation
- Spearman Correlation
- Fisher Test
- Simple Linear Regression

၂။ (၂)ခုထက်ပိုသည့် ကိန်း ရှင်ကြား ဆက်နွယ်မှုကို စာရင်းအင်းဖြင့် ဆန်းစစ်ခြင်း ( Multivariate analysis)

(၂)ခုထက်ပိုများသည့် ကိန်းရှင်ကြား ဆက်နွယ်မှု၊အကျိုးသက်ရောက်မှုရှိ မရှိဆိုသည်ကို လေ့လာကြသည့် သုတေသနတွေမှာ ( ဉပမာ- ကျား၊မအုပ်စု ၊ သင်ကြားပို့ချမှု စသည်များသည် အင်္ဂလိပ်စာ ဘာသာစကားတိုးတက်မှုအပေါ် အကျိုးသက်ရောက်မှု ရှိပါသလား) စာရင်းအင်း ပညာရပ်များကို စစ်ဆေးကြည့်သည့်အခါ သုံးစွဲရသည့် စနစ်ကို Multivariate ဖြစ်သည်။

(၂) Multivariate:

- Repeated two way ANOVA
- Repeated MANOVA
- Two way ANOVA
- MANOVA
- One way MANOVA
- Two way MANOVA
- Multi linear regression

****************

## SPSS Software ကို Install ပြုလုပ်နည်း

SPSS Software သည်အခြားသော STATA, SAS,R -Statistics တို့ကဲ့သို့ ဒေတာဆန်းစစ်ရာတွင် လွယ်ကူစွာအသုံးပြုနိုင်စေရန် စီမံထားသော ဆော့ဝဲလ် တစ်ခုဖြစ်သည်။ ယခုစာအုပ်သည် SPSS ၂၅ version ကိုအခြေခံပြီး ရေးသားထားခြင်းဖြစ်သည်။ SPSS ကိုအသုံးပြုမည်ဆိုလျှင် မိမိတို့၏ ကွန်ပျူတာများမှာ Software Install လုပ်ထားပြီးသားဖြစ်ရပါမည်။ မရှိသေး ပါက အောက်ပါ လမ်းညွှန်ချက်များ အတိုင်း Install လုပ်ရပါမည်။

SPSS Software ကို Install မလုပ်မှီ ကိုယ်သုံးနေသော ကွန်ပျူတာ Window သည် ၃၂-bit လား၊ ၆၄-bit လားဆိုတာကို အရင်သိရပါမည်။ SPSS ၂၅ Version သည် Window ၆၄-bit ဖြစ်မှ အဆင်ပြေပါမည်။ တကယ်လို့ မိမိတို့၏ ကွန်ပျူတာ Window များသည် ၃၂-bit ဖြစ်နေလျှင် SPSS Version ၂၃ ။၂၄ တို့ကိုသာ Install လုပ်ရပါမည်။

## Install လုပ်နည်း အဆင့်ဆင့်

၁။ Install လုပ်ဖို့ရန် ဖိုင်ရှိသည့်နေရာကို သွားပါ။ ပြီးနောက် SPSS_Statistics 25_win 64 ကိုရွေးပြီး "Click" နှိပ်ပါ။




3 A

၂။ SPSS Installation လုပ်နေတာကို မြင်ရပါလိမ့်မည်။




၃။ Next ကိုနှိပ်လိုက်ပါ။



၄။ InstallShield Wizard ပေါ်လာမည်။ "I accept the terms in the license agreement” ကို ရွေးလိုက်ပါ။ပြီးနောက် Next ကိုဆက်နှိပ်လိုက်ပါ။




၅။အခုပေါ်လာတဲ့ အရာကတော့ “Essentials for Python” ကို Install လုပ်အုန်းမှာလားလို့ မေးလာပါလိမ့်မည်။ ဒါကလည်း SPSS တွဲသုံးရတဲ့ အရာဖြစ်သည်။ Install လုပ်မယ်ဆိုလျှင် “Yes”၊ မလုပ်ဘူးဆိုလျှင် "No" ကိုနှိပ်ပါ။ ပြီးနောက် Next ကို ဆက်ပြီး နှိပ်လိုက်ပါ။



၆။ဆက်လုပ်ဖို့အတွက် Aggreement တောင်းပါလိမ့်မည်။ “ I accept the terms in the license agreement” ကို ရွေးလိုက်ပြီး “Next” ကိုဆက်နှိပ်ပါ။




၇။ဆက်လုပ်ဖို့အတွက် Agreement တောင်းခံလိမ့်မည်။ “ I accept the terms in the license agreement” ကို ရွေးပါ။ပြီးနောက် Next ကို ထပ်နှိပ်ပါ။



၈။ ဒီနေရာမှာတော့ ဘယ်နေရာမှာ Install လုပ်မလဲဆိုတာကို ရွေးပေးရမှာပါ။ ပုံမှန်အားဖြင့်တော့ ယ အခန်းထဲက Program Files မှာ သိမ်းထားတတ်ပါသည်။ သို့ပေမယ့် C အခန်းထဲမှာ မသိမ်းချင်ဘူးဆိုလျှင် Change ဆိုတဲ့နေရာမှာ ပြောင်းပေးလို့ရပါသည်။ ပြီးနောက် Next ကိုဆက်နှိပ်ပါ။




၉။ Install ကို ဆက်နှိပ်ပါ။



၁၀။ ကွန်ပျူတာထဲမှာ Install လုပ်နေပါပြီ။




၁၁။ Install လုပ်ပြီးသည့်အခါ အောက်ပါအတိုင်းပေါ်ပါလိမ့်မည်။ Finish ကိုနှိပ်ပါ။



၁၂။ " License" Code ကိုထည့်သွင်းဖို့ရန် ပုံတွင်ဖော်ပြထားသည့် နေရာကို နှိပ်ပြီး ဖွင့်လိုက်ပါ။




၁၃။ "Authorized user" နေရာကို အမှတ်ခြစ်လိုက်ပါ။



၁၄။"Code" ရယူဖို့ရန် "Iservrc" ကို "Word" ဖြင့်ဖွင့်လိုက်ပါ။




၁၅။"Code" ကို ကော်ပီကူးပြီး ပုံတွင်ဖော်ပြထားသည့် နေရာတွင် ပွားပြီးထည့်လိုက်ပါ။ပြီးနောက် "Next" ကိုနှိပ်လိုက်ပါ။



၁၆။ အကုန်လုံးပြီးဆုံးအောင်မြင်ကြောင့် အောက်တွင်ဖော်ပြသည့် ပုံအတိုင်း မြင်ရပါလိမ့်မည်။ “Next” ကိုနှိပ်ပါ။




၁၇။“Next” ကိုဆက်နှိပ်လိုက်ပါ။ Install လုပ်ခြင်း အကုန်အောင်မြင်စွာ ပြီးဆုံးသွားပါပြီ။ SPSS ကို ပျော်ပျော်ကြီး ကြိုက်သလောက် သုံးနိုင်ပါပြီ။



# SPSS အခြေခံသဘောတရား

Spss wGif Windows ပါရှိပါသည်။သို့ပေမယ့် ယခု စာရင်းအင်းဆိုင်ရာ ဒေတာဆန်းစစ်ချက်နှင့် ပတ်သက်ပြီး windows (၂)မျိုးကို သာတင်ပြပေးသွားပါမည်။

၁။ Data Editor window

၂။ Output Viewer window

### (1) Data Editor Window

Data Editor Window သည် ဒေတာများကို ဖန်တီးခြင်း၊ တည်းဖြတ်ပြင်ဆင်ခြင်းများ ပြုလုပ်ရသည့် အခန်းကဏ္ဍဖြစ်သည်။ ၎င်းသည် spss ကိုဖွင့်လိုက်သည်အချိန်တွင် အလို အလျောက်ပွင့်လာပြီး ပထမမြင်တွေ့ရသော အခန်းဖြစ်သည်။ ၎င်းတွင် ၁။ Variable View ၂။ Data view ဟု (၂)မျိုးပါဝင်သည်။




### (2)Output Viewer window

Output Viewer window သည် ဒေတာများကို စနစ်တကျထည့်သွင်းလျှက် ဆန်းစစ်သည့်အခါ ဇယားများ၊ ဂရပ်များဖြင့် ရလာဒ်များ ပေါ်ထွက်လာသည့် မျက်နှာပြင်ဖြစ်သည်။




# ဒေတာထည့်သွင်းခြင်း (Data Entry)

ဒေတာဆန်းစစ်ခြင်းလုပ်ငန်းကို စတင်ကြရာတွင် မိမိတို့၏ဒေတာများကို Input Window တွင်ထည့်သွင်းရင်းပြုလုပ်ဆောင်ရွက်ကြရပါသည်။ Input widow တွင်လည်း (၁) Variable View (၂) Data View ဟု (၂)မျိုးပါဝင်သည်။

(၁) Variable View သည် သုတေသီ၏ မေးခွန်းလွှာများနှင့် ကြိုတင်စီမံထားသည့် အဖြေ များကို Coding ပြုလုပ်ခြင်းဖြစ်သည်။ ယင်းတွင် မေးခွန်းတစ်ခုစီ၏ အမျိုးအစားနှင့် တန်ဖိုးတို့ကို စနစ်တကျထည့်ရမည်ဖြစ်သည်။

(၂) Data View သည် သုတေသီ၏ မေးခွန်းလွှာတစ်ခုချင်းစီကို ဖြေဆိုပေးကြသည့် ဖြေဆို ရှင်ပုဂ္ဂိုလ်များ၏ အဖြေတစ်ခုချင်းစီကို ထည့်သွင်းရမည့်နေရာဖြစ်သည်။

## The Variable View

Variable View သုတေသီ၏ မေးခွန်းလွှာများတွင်ပါရှိသည့် မေးခွန်းများနှင့် အဖြေများ၊ ကိန်းအမျိုးအစားများကို ကြိုတင်ထည့်သွင်းရမည့်နေရာဖြစ်သည်။ ၎င်းတွင်လည်း- Name ,Type ,Width ,Decimal ,Label ,Value ,Missing ,Column , Align , Measurement ESifY Role တို့ပါဝင်ပါသည်။ တခုချင်းစီကို အောက်တွင်ဖော်ပြထားပါသည်။







အမည် (Name)

Name တွင် မေးခွန်းများ၏ စကားလုံးတစ်ခုစီကို အတိုကောက်စာလုံးဖြင့် ရေးထည့် ပေးရမည်။ စကားလုံးအရေအတွက်အားဖြင့် (၁၀)လုံးထက် မပိုတာက ပိုကောင်းသည်။

မှတ်ချက်။ အရှည်မရေးရ၊ Spacing ခြားလို့မရပေ။  Spacing ခြားရေးလိုလျှင် (Control) နှင့် (-) ကိုနှိပ်ပြီးဒေတာသွင်းလို့ရသည်။

| | Name | |
|---|---|---|
| 1 | age | N |
| 2 | MaritalStatus | N |
| 3 | sex | N |
| 4 | income | N |
| 5 | | |

Figure 14 -

အမျိုးအစား (Type)

ဒေတာများကို ထည့်သွင်းရာတွင် အမျိုးအစား (၂)ခုဖြင့် ထည့်သွင်းရမည်။

၁။ String and ၂။ Numeric.

ယေဘုယျအားဖြင့်ဆိုလျှင် စကားလုံးများဖြင့် ထည့်သွင်းရသည့် အရာကို String ဟုခေါ်ပြီး ကိန်းဂဏန်းများဖြင့်သာ ထည့်သွင်းဖော်ပြရသည့် အမျိုးအစားများကို Numeric ဟုခေါ်သည်။



*comp

File Edit View Data Transform Analyze Direct Marketing Graphs

| | Name | Type | Wi | |
|---|---|---|---|---|
| 1 | name | String | | |
| 2 | weight | Numeric | 5 | |
| 3 | date | Date | 11 | 0 |
| 4 | time | Date | 8 | |
| 5 | datetime | Date | 22 | |
| 6 | commission | | 4 | 2 |
| 7 | price | Dollar | 4 | 2 |
| 8 | | | | |

String Variable

Numeric Variables

အထက်ပါ cell ကွက်တွင် ညာဘက်အစွန်နားကို “ right click” ထောက်ကြည့်လိုက်ပါ။ အောက်ပါအတိုင်း “ Box” တစ်ခုပေါ်လာပါလိမ့်မည်။ ယင်း “ Box” တွင် “ Numeric, comma, Dot, scientific notation,Data, Dollar,Custom currency,String ” တို့ပါဝင်သည်။ များသောအားဖြင့် သုတေသီအများစုသည် Numeric data ဖြင့်ထည့်သွင်း အသုံးပြုခြင်းကို နှစ်သက်ကြသည်။




### Width and Decimal

Width သည် မိမိ၏ဒေတာစကားလုံးများ၏အရေအတွက်အပေါ်မူတည်ပြီး ဖော်ပြခြင်းဖြစ်သည်။ ပုံမှန်အားဖြင့် နံပါတ် (၈)အထိသာ သတ်မှတ်ကြသည်။

Decimal onf decimal အရေအတွက်ကိုဖော်ပြသည်။ပုံမှန်အားဖြင့် decimal အရေအတွက် ကိုဖော်ပြရာတွင် (၂)ဟုသာဖော်ပြကြသည်။

| Width | Decimals |
|---|---|
| 8 | 2 |
| 8 | 2 |
| 8 | 2 |
| 8 | 2 |
| | |

### Label

Label သည် Name တွင် အတိုကောက်စာလုံးများဖြင့် ဖော်ပြထားသည့် ကိန်းများဆိုင်ရာ (မေးခွန်းလွှာအတွင်းပါရှိသည့် စကားလုံးများ) စကားလုံးများကို အရှည် ပြန်လည် ရေးသား တင်ပြခြင်းဖြစ်သည်။ ယင်းတွင် စကားလုံးအရေအတွက် (၂၅၆)လုံး ရေးသားနိုင်သည်။

| als | Label | V |
|---|---|---|
| | Age in years | None |
| | Marital Status | None |
| | Gender | None |
| | Income by thousands | None |

**Value label**

Value Label သည် မေးခွန်းလွှာတစ်ခုစီတွင် ပါဝင်သည့် အဖြေဆိုင်ရာ စကားလုံးများကို ထည့်သွင်းဖော်ပြခြင်းဖြစ်သည်။ ၄င်းတွင် (၁)Value (၂)Label (၂)ခု ကိုအောက်ပါအတိုင်းတွေ့ရမည်။။ ဋ္ဌဋ္ဌကန တွင် မိမိတို့၏ မေးခွန်းများကို ဂဏန်းစဉ် နံပါတ်ဖြင့်ဖြစ်စေ၊ အက္ခရာအစဉ်အတိုင်းဖြင့်ဖြစ်စေ ထည့်သွင်းနိုင်ပြီး Lable တွင် မိမိတို့၏ မေးအဖြေစကားလုံးများကို ထည့်သွင်းရမည်။




Coding သတ်မှတ်ပုံ ဥပမာများ -

| | |
|---|---|
| Gender = | ( 0) male and(1) female or (1) male and (2) female |
| Smoking = | (0) No (1) Yes |
| 5 Liker scale= | 1.Strongly disagree 2. Disagree 3. Netural 4. agree 5.Strongly Agree |
| Frequency rating= | 1. Often 2. Sometimes 3.Seldom 4.Never |
| Importance = | 1.Very Important 2.Important 3.Neither Important or Unimportant 4.Unimportant 5.Very Unimportant |









မှတ်ချက်။

(1)Value တွင် ကိန်းဂဏန်းဖြင့်ထည့်ပြီး Label တွင် မိမိတို့၏ အဖြေစကားလုံးများကို ထည့်သွင်းလျှင် "Numeric" ဖြစ်သည်။



(2)Value တွင် စကားလုံးများဖြင့်ထည့်ပြီး Label တွင် မိမိတို့၏ အဖြေစကားလုံးများကို ထည့်သွင်းလျှင် "String" ဖြစ်သည်။

Value Labels
Value: F
Label: Female
M = "Male"
Add
Change
Remove
OK Cancel Help

ပျက်ကွက်ဒေတာများ (Missing)

မေးခွန်းလွှာများဖြင့် ဒေတာကောက်ယူကြရာတွင် ဖြေဆိုဖို့ပျက်ကွက်သူများ၊ မေးခွန်းများ ကျန်ရစ်ခြင်းစသည်များကြောင့် ပျက်ကွက်ဒေတာများလည်းရှိတတ်သည်။ ၄င်းပျက်ကွက် ဒေတာများကို သတ်မှတ်ဖော်ပြရသည်။

Missing Values
No missing values
Discrete missing values
Range plus one optional discrete missing value
Low: High:
Discrete value:
OK Cancel Help

ပျက်ကွက် သူများ မရှိလျှင် "none" ဖြင့် ဖော်ပြပြီး ပျက်ကွက်သူများရှိလျှင် "9" , "99" "999" စသည်ဖြင့် သတ်မှတ် ထည့်ပေးရမည်။




**Columns**

Columns သည် ကော်လံ၏ အကျယ်အဝန်းကိုဖော်ပြသည်။ ပုံမှန်အားဖြင့် နံပါတ် (၈) သာ သတ်မှတ်ကြသည်။



| Columns |
|---|
| 8 |
| 8 |
| 8 |
| 8 |

**Align**

Align သည် Align ၏နေရာများကို ညာဘက်လား (Right)၊ ဘယ်ဘက်လား(Left)၊ အလယ်လား(Centre) စသည်ဖြင့် သတ်မှတ်ခြင်းဖြစ်သည်။ပုံမှန်အားဖြင့် ညာဘက်တွင် ထားလေ့ရှိကြသည်။



| Align |
|---|
| Right |
| Right |
| Right |
| Right |

5 A

**Measurement**

Measurement သည်မေးခွန်းတစ်ခုချင်းစီ၏ တိုင်းတာလို့ရနိုင်သည့် တန်ဖိုးကို Ordinal, Nominal. Scale data တို့ဖြင့် ဖော်ပြသည်။




| Scale | Values | Examples |
|---|---|---|
| **Nominal** | Order values: No<br>Same distance: No<br>Absolute zero point: Not applicable | Yes/no questions<br>Gender<br>Ethnicity |
| **Ordinal** | Order values: Yes<br>Same distance: No<br>Absolute zero point: Not applicable | Attitude questions<br>Self-rated health<br>Educational level |
| **Ratio** | Order values: Yes<br>Same distance: Yes<br>Absolute zero point: Yes | Age<br>Income<br>School marks |
| **Interval** | Order values: Yes<br>Same distance: Yes<br>Absolute zero point: No | Temperature (Celsius) |

| | Numeric | String | Date | Time |
|---|---|---|---|---|
| Scale (Continuous) | | n/a | | |
| Ordinal | | a | | |
| Nominal | | a | | |

******************

# Data View

Data view သည် ဒေတာများကို ကောက်ယူပြီး ရရှိလာသည့် အဖြေများကို ပြန်လည်ထည့်သွင်းရသော နေရာဖြစ်သည်။ Data view တွင်အပေါ် Bar တွင်မြင်ရသည့် အရာများသည် Variable view တွင်ထည့်ထားသော မိမိတို့၏ မေးခွန်းများဖြစ်သည်။ Data view ၏ ဘယ်ဘက်အခြမ်းတွင် နံပါတ်စဉ်များသည် ပါဝင်ဖြေဆိုကြသည့် နမူနာဦးရေ အရေအတွက်ဖြစ်သည်။




*******************

# သရုပ်ပြသုတေသန စာရင်းအင်းပညာ
# (Descriptive Statistics)

သရုပ်ပြသုတေသန စာရင်းအင်းဆိုသည်မှာ လက်ရှိဖြစ်တည်နေသော ရည်ရွယ် ဦးရေ၏ အခြေနေကို (နမူနာမှတဆင့် ခန့်မှန်းကာ) ကြိမ်နှုန်း (Percentage), ရာခိုင်နှုန်း (Frequency) တို့ဖြင့် ဆန်းစစ်ကာ ဖော်ပြရသည့် စာရင်းအင်းဖြစ်သည်။

ယင်းသို့ဖော်ပြရာတွင် -

၁။ ဒေတာအဆင့် တိုင်းတာမှု (Level of data or measurement of Scale)

၂။ ဗဟိုညွှတ်ကိုင်းတိုင်းတာချက် (Measurement of central tendency)

၃။ ဂရပ်ဖြင့် တင်ပြခြင်း (Graphic presenting: frequency polygons and histograms) စသည်တို့ပါဝင်သည်။

၁။ ကြိမ်နှုန်း (Frequency)

၂။ ရာခိုင်နှုန်း (Percentage)

၃။ တရားဝင်ရာခိုင်နှုန်း (Valid percent)

၄။ တိုးပွားရာခိုင်နှုန်း (Cumulative percentage)

၅။ သမတ်ကိန်းတန်ဖိုး (Mean)

၆။ အလယ်ကိန်း (Median)

၇။ ကြိမ်ကိန်း (Mode)

၈။ အဆင့် (Range)

၉။ စံသွေဖီကိန်း (Standard Deviation) တို့သည် အရေးကြီးသည့် အခန်းကဏ္ဍတွင်ပါဝင်သည်။ တွက်ချက်နည်း အသီးအသီးတို့ကို အခြေခံအားဖြင့် သိရှိစေရန် အောက်တွင်ဖော်ပြထားပါသည်။

**Level of Data or Measurement of Scale**

**Data များ၏ အဆင့်တို့ကို ဖော်ပြချက်များတွင်** - ဒေတာသည်

1/ Nominal 2/Ordinal 3/ Interval 4/ Ratio တို့ပါဝင်သည်။

**Measurement of central tendency** တွင် -

Mean, Mode and Median တို့ပါဝင်သည်။

## သမတ်ကိန်းတွက်နည်း (Mean/Average)

Mean / Average သည် ဒေတာ၏ ဗဟိုညွှတ်ကိုင်းတိုင်းတာမှုပင်ဖြစ်သည်။ စုစုပေါင်းအရေအတွက်၏တန်ဖိုးကို ပေါင်းယူကာ ဦးရေဖြင့် စားပါက သမတ်ကိန်းတန်ဖိုး ရရှိမည်ဖြစ်သည်။ ဥပမာ -

**ဥပမာ (က)**

2+5+10+ 15+32=

$$\frac{2+5+10+15+32}{5} = 12.8 \text{ mean}$$

**ဥပမာ (ခ)**

34+ 43+ 81+ 106 +106 + 115

$$\frac{34 + 43 + 81 + 106 + 106 + 115}{6} = 80.83$$

$$x = \frac{12+24+41+51+67+67+85+99}{8} = 55.75$$

**Exercise:**

20++22+23+ 24+25+25+ 36=

38, 39, 40, 42, 44, 46, 47, 50, 50, 96 =

## အလယ်ကိန်း ရှာနည်း (Median)

အလယ်ကိန်းသည် ကိန်းအားလုံး၏ အလယ်တည့်တည့်တွင်ရှိသော ဂဏန်းဖြစ်သည်။ ၎င်းသည် (မ) ဂဏန်းဖြစ်သည့်အခါ ရှာဖို့လွယ်ကူပေမယ့် (စုံ)ဂဏန်းဖြစ်နေသည့်အခါတွင် အလယ် ဂဏန်း (၂)ခုကို ပေါင်းပြီး (၂) ဂဏန်းဖြင့် (စား/÷)ရသေးသည်။ အောက်တွင် နမူနာများကို ဖော်ပြထားပါသည်။

**(မ)ဂဏန်းတွင် အလယ်ကိန်းရှာခြင်း** -

20, 22, 23, 24, 25, 25, 36. တွင် အလယ်ကိန်းသည် 24 ဖြစ်သည်။

## Exercise

- 2+5+10+ 15+32=

**(စုံ)ဂဏန်းတွင် အလယ်ကိန်းကိုရှာခြင်း** -

22, 23, 25, 26. အထက်ပါ ကိန်းတို့တွင် အလယ်ကိန်းသည် (၂၃)နှင့် (၂၅)ကြားရှိသည်။ ၎င်း ကိန်း ဂဏန်း (၂)ခုကို ပေါင်းလျှင် (၄၈) ရသည်။ ယင်း (၄၈) ဂဏန်းကို (၂) ဖြင့်စားပါ။ (၂၄) ရသည်။ ယင်းသည် အလယ်ကိန်းဖြစ်သည်။

**အခြားသောဥပမာ**

38, 39, 40, 42, 44, 46, 47, 50, 50, 96

$$\text{Median} = \frac{44 + 46}{2} = 45$$

**Exercise:**

34+ 43+ 81+ 106 +106 + 115 =

**ကြိမ်ကိန်းရှာနည်း (Mode)**

Mode သည် ဒေတာကိန်းများတွင် အများအပြားတွေ့ရသည့် ကိန်းများကိုဖော်ပြခြင်း ဖြစ်ပြီး ဒေတာများကို မူတည်ပြီး ကိန်းတစ်ခုဖြစ်စေ ကိန်း (၂)ခုနှင့် အထက်ဖြစ်စေ၊ ကြိမ်ကိန်း မပါသည့် ဒေတာများဖြစ်စေ ရှိတတ်ပါသည်။ ဥပမာ -

- 34+ 43+ 81+ 106 +106 + 115 = 106 mode
- 20, 22, 23, 24, 25, 25, 36 = 25 mode

တချို့သော ဒေတာများတွင် ကြိမ်ကိန်းသည် (၁)ခုထက်ပိုပြီးရှိတတ်သည်။ ဥပမာ

22, 23, 23, 24, 27, 27, 29 = 23 and 27 mode ( 23+27= )

တချို့သော ဒေတာများတွင် ကြိမ်ကိန်းများ မပါဝင်တတ်ကြပါ။ ဥပမာ-

21, 23, 24, 25, 26, 27, 29 = No mode

**Measure of Spread / Dispersion** တွင်

Range

Variance

Standard devition

Miximum

Minimum တို့ပါဝင်သည်။

**အကွာအဝေး** သို့မဟုတ် တာ **(Range)**

Range သည် ဒေတာတွင်ပါရှိသည့် တန်ဖိုးအသေးဆုံးနှင့်အကြီးဆုံးတို့ကြား စာရင်းအင်း သင်္ချာဆိုင်ရာ အကွာအဝေး သို့မဟုတ် တာ ကိုဖော်ပြသည်။ ၄င်းသည် Data set ၏ Variability ကို တိုင်းတာပေးသည်။ တန်ဖိုးအသေးဆုံးနှင့်အကြီးဆုံးကြား သင်္ချာဆိုင်ရာ အကွာအဝေး များလေလေ ဒေတာတွင်ရှိသည့် Variability သည်လည်း ကြီးမားလေလေပင်ဖြစ်သည် ဟုဆိုသည်။

ဥပမာ -

20, 22, 23, 24, 25, 25, 36.

အထက်ပါ ကိန်းဂဏန်းများတွင် အကြီးဆုံးသည် (၃၆) ဖြစ်ပြီး အငယ်ဆုံးတန်ဖိုးသည် (၂၀) ဖြစ်သည်။ Range ကို တွက်ချက်ကြည့်ဖို့ရန် အကြီးဆုံးတန်ဖိုး (၃၆) မှ အငယ်ဆုံးတန်ဖိုး (၂၀) ကိုနှုတ်ပါ။ (၁၆) ရပါမည်။ ၄င်းသည် Range ဖြစ်သည်။

**ကွဲပြားမှု (Variance)**

**ကွဲပြားမှုဆိုသည်မှာ ဒေတာတစ်ခုနှင့် တစ်ခုကြားကွဲပြားချက်ကို ဖော်ပြပေးပါသည်။ တွက်ချက်နည်းမှာ အောက်ပါအတိုင်းဖြစ်သည်။**

ဥပမာ-(က)

2+5+10+ 15+32

2+5+10+ 15+32= 12.8 mean

5

| Data | |
|---|---|
| 2 | -12.8=10.8 |
| 5 | -12.8= 7.8 |
| 10 | -12.8= 2.2 |
| 15 | -12.8= 2.8 |
| 35 | -12.8=19.8 |

| $X^2$ | |
|---|---|
| 10.8= | 116.64 |
| 7.8 = | 60.84 |
| 2.2 = | 7.84 |
| 2.8 = | 4.84 |
| 19.8= | 368.64 |
| ------------- | |
| Total= | 558.8 |

ဥပမာ (ခ)

20+24+25+36+25+22+23=175.

7

175 ÷ 7= 25 mean

| Data | |
|---|---|
| 20 -25= 5 | 5 =25 |
| 22 -25= 3 | 3= 9 |
| 23 -25= 2 | 2= 4 |
| 24 -25= 1 | 1= 1 |
| 25 -25= 0 | 0= 0 |
| 25 -25= 0 | 0= 0 |
| 36 -25=11 | 11= 121 |
| | Total=160 variance |

**စံသွေဖီကိန်း (Standard deviation)**

စံသွေဖီကိန်းကို သိလိုလျှင် Variance တန်ဖိုးကို Square Root ဖြင့် ပြန်လည်တွက်ချက်ယူရသည်။

ဥပမာ (က)

| $X^2$ |
|---|
| 10.8= 116.64 |
| 7.8 = 60.84 |
| 2.2 = 7.84 |
| 2.8 = 4.84 |
| 19.8= 368.64 |
| ------------- |
| Total = 558.8 **variance** |

6 A

နမူနာ စုစုပေါင်း (၅)ယောက်ရှိပေမယ့် တစ်ယောက်လျှော့ရမည်။

558.8 ÷ 4 (n-1)

ပြီးနောက် Variance တန်ဖိုးကို နမူနာဦးရေဖြင့် စားရမည်။

558.8 ÷ 4 = 139.7

ရရှိလာသည့် အဖြေကို Standard Deviation ရရှိလာအောင် Square Root တင်ရမည်။

139.7 square root =11.819475453673906

အဖြေ 11.82 သည် standard deviation ဖြစ်သည်။

ဥပမာ (ခ)

20+24+25+36+25+22+23=175.

7

175 ÷ 7= 25 mean

| Data | |
|---|---|
| 20 -25= 5 | 5 =25 |
| 22 -25= 3 | 3= 9 |
| 23 -25= 2 | 2= 4 |
| 24 -25= 1 | 1= 1 |
| 25 -25= 0 | 0= 0 |
| 25 -25= 0 | 0= 0 |
| 36 -25=11 | 11= 121 |
| | Total=160 variance |

နမူနာ စုစုပေါင်း (၇)ယောက်ရှိပေမယ့် တစ်ယောက်လျှော့ရမည်။

160 ÷ 6( n-1) ပြီးနောက် Variance တန်ဖိုးကို စားရမည်။

160 ÷ 6= 26.66

ရလာသည့် တန်ဖိုးကို square root တင်ရမည်။

26.66 square root = 5.163332257370234

အဖြေသည် အောက်ပါအတိုင်းဖြစ်သည်။

5.16 standard deviation

**နမူနာ ပုံစံသုတေသန တစ်ခုဖြင့် လေ့လာကြည့်ကြပါမည်။**

ယခုသုတေသနသည် ခေါင်းဆောင်မှုပုံစံကိုနှစ်သက်မှု၊ ကျင့်သုံးမှု၊ လူဦးရေမည်မျှ ရာခိုင်နှုန်း မည်မျှရှိသနည်းဆိုသည်ကို လေ့လာကြည့်ကြမည်ဖြစ်သည်။ ယင်းတွင် ရည်ရွယ်ပစ်မှတ် လူဦးရေအဖြစ် ကျောင်းဆရာ၊ဆရာမများကို ရွေးချယ်မည်။ ဆရာ၊ဆရာမ အရေအတွက် မည်မျှသည် ခေါင်းဆောင်မှု မည်သည့်ပုံစံကို နှစ်သက်ကြသည်၊ ရာခိုင်နှုန်းအားဖြင့် မည်မျှရှိသည်ကို လေ့လာရမည်ဖြစ်သည်။ ယင်းတွင် ဆရာ၊ဆရာမများသည် မည်သည့် ခေါင်းဆောင်မှုပုံစံများကို နှစ်သက်ကြသည်ဆိုသည်ကို ခေါင်းဆောင်မှုပုံစံ(၂)မျိုး (1.Transformational leadership style and 2.Transectional leadership style) ဖြင့် ဆရာ၊ဆရာမ (၃၂)ဦးရေကို စစ်တမ်းကောက် လေ့လာမည်။ မေးခွန်းတွင် (က) မည်သည့် ခေါင်းဆောင်မှုပုံစံကို ဆရာ ဆရာမများ ပိုပြီးနှစ်သက်ကြသလဲ၊ (ခ) ဆရာ၊ဆရာမတို့ကြား ကျား၊မ လိင်ကွဲပြားခြားနားမှုကြား ခေါင်းဆောင်မှုပုံစံနှစ်သက်မှု ကွဲပြားခြားနားမှု ရှိသလား (ဂ)အစိုးရနှင့် ပုဂ္ဂလိက ကျောင်းများတွင်လုပ်ကိုင်နေကြသည့် ဆရာ ဆရာမတို့ကြား ခေါင်းဆောင်မှုပုံစံနှစ်သက်မှု ကွာခြားမှုရှိပါသလား ဆိုသည့် ရည်ရွယ်ချက် (၃)ခုတို့ကို သတ်မှတ်ထားသည်။ ခေါင်းဆောင်မှု ပုံစံ(၂)ကို မေးခွန်းမေးမြန်းရာတွင် -

1/ Transformational leadership style ကို မေးခွန်းနံပါတ် ၁၊၂၊၄၊၆၊ ၈ဖြင့် သတ်မှတ်ထားပြီး၊

2/ Transectional leadership style ကို ၃၊၅၊၇၊၉၊၁၀ဖြင့် သတ်မှတ်ထားပါသည်။

**၎င်းတို့ကို အောက်ပါအတိုင်းအဆင့်ဆင့် ဆန်းစစ်ရမည်ဖြစ်မည်။**

# Title: Descriptive study of Preference of Leadership style

Q1: What type of leadership style is mostly preferred by primary teachers ?

Q2: Is there any difference of preference of leadership style between gender?

Q3: 3.Is there any difference of preference of leadership style between private and bublic primary school teachers?

Objective: To identify what type of leadership style is mostly prefered by Primary school teachers.

Objective: To determine if there is any difference of preference of leadership style between male and female primary school teachers.

Objective: To determine if there is any difference of preference of leadership style between public and private primary school teachers.

## Demographic profile ကိုဖော်ပြခြင်း

မိမိ၏ သုတေသနတွင် ပါဝင်ခဲ့ကြသော လူပုဂိုလ်များ၏နောက်ခံအကြောင်းဖြစ်သည့် ကျား၊မ၊ အသက်အရွယ်၊ လူမျိုး၊ ပညာအရည်အချင်း၊ ရာထူး၊ အလုပ်အကိုင်၊ နေရာ စသည်တို့ကို လည်းဖော်ပြဖို့လိုအပ်သည်။

**ဆန်းစစ်ပုံအဆင့်ဆင့်**

၁။ **"Descriptive"** ဖိုင်ကိုဖွင့်ပါ။ **"Analyze"** ကိုနှိပ်ပါ။ **"Descriptive Statistics"** မှ **"Frequencies"** ကိုရွေးပါ။




ပုံ(၁)

၂။အောက်ပါအတိုင်း "Box" တစ်ခုပေါ်လာပါလိမ့်မည်။၎င်း "Box" အတွင်းသို့ ဆန်းစစ်ရှာဖွေလိုသော အရာ **(ဥပမာ- သုတေသနတွင် ပါဝင်ခဲ့ကြသည့် လူပုဂ္ဂိုလ်များ၏ နောက်ခံအကြောင်းများဖြစ်တဲ့ ကျား၊ မ၊ လိင်၊ ပညာရေး၊ အသက်၊ အိမ်ထောင်ရေးနေရာ၊အလုပ်အကိုင် စသည်) တို့ကို** ရွေးချယ်ပြီးထည့်ရပါမည်။ ပြီးနောက် **"Statistics"** ကိုနှိပ်ပါ။




ပုံ(၂)

၃။အောက်ပါအတိုင်း **"Frequencies: statistics"** ခေါင်းစဉ်ဖြင့် **"Box"** တစ်ခုထပ်မံပေါ်လာပါလိမ့်မည်။ ၎င်း "Box" တွင် **means, median,mode standard deviation** များပေါ်ထွက်လာစေရန် ဖော်ပြပါအတိုင်း အမှတ်ခြစ်ပေးပါ။ ပြီးနောက် **"Continue"** ကိုဆက်နှိပ်ပါ။




ပုံ(၃)

၄(က)။မူလနေရာကို ရောက်သွားပါလိမ့်မည်။ **Charts** များဖြင့်ဖော်ပြဖို့ရန် **“Charts”** ကိုဆက်နှိပ် ပါ။ **( ပုံ-(၂) တွင်ရှိသော နံပါတ် (၈) ကို ဆက်နှိပ်ပါ။)**

၄(ခ)။အောက်ဖော်ပြပါပုံအတိုင်း **“Box”** တစ်ခုပေါ်လာမည်။ မိမိဖော်ပြချင်သည့် **“Charts”** ကိုအမှတ်ခြစ်ပါ။ ပုံတွင် **Pie charts** ဖြင့်ဖော်ပြဖို့ရန်အတွက် ၄င်းကိုအမှတ်ခြစ်ထားပါသည်။ ပြီးနောက် **“Continue”** ကိုဆက်နှိပ်ပါ။




ပုံ(၄-ခ)

၅။ မူလနေရာကိုပြန်ရောက်ပါလိမ့်မည်။ရလာဒ်များထွက်ပေါ်လာစေရန် **“Ok ”**ကိုဆက်နှိပ်ပါ။




ပုံ(၅)

## Output

location

| | | Frequency | Percent | Valid Percent | Cumulative Percent |
|---|---|---|---|---|---|
| Valid | private | 16 | 50.0 | 50.0 | 50.0 |
| | public | 16 | 50.0 | 50.0 | 100.0 |
| | Total | 32 | 100.0 | 100.0 | |

ပုံ(၆)

**Frequency-** ယခုကော်လံသည် မိမိတို့၏ သုတေသနတွင် ပါဝင်ဖြေဆိုခဲ့ကြသည့် ဦးရေ အရေအတွက်ကို ဖော်ပြသည်။

**Percent-** ယခု ကော်လံသည် လေ့လာခဲ့သည့် ဦးရေများအနက် (ပျက်ကွက်သူ၊ မပျက်ကွက်သူ (၂)ခုလုံးအပါအဝင်) ရရှိလာသည့် အရေအတွက်ကို ရာခိုင်နှုန်းဖြင့် ဖော်ပြထားခြင်းဖြစ်သည်။

**Valid Percent-** ယခုကော်လံသည် လေ့လာခဲ့သည် ဦးရေအားလုံး (ပျက်ကွက်သူများ မပါဝင်လျှင်) ၏ ရရှိနိုင်သော ရာခိုင်နှုန်းပမာဏကို ဖော်ပြသည်။ တကယ်လို့ ပျက်ကွက်သူများပါရှိခဲ့မည်ဆိုလျှင် Percent နေရာတွင် ဖော်ပြပေးပါလိမ့်မည်။

**Cumulative Percent -** ယခုကော်လံသည် လေ့လာခဲ့သည့် ဦးရေအားလုံး၏ စုစုပေါင်းတန်ဖိုးကို ဖော်ပြခြင်းဖြစ်သည်။ ယင်းသည် Valid Percent တွင်ဖော်ပြထားသည့် တန်ဖိုးများကို အသီးသီး ပေါင်းယူကာ ဖော်ပြထားခြင်းသာဖြစ်သည်။

မှတ်ချက်။ စာတမ်းတွင် အဓိက ဘာသာပြန်ဆိုရမည့်နေရာသည် Frequency နှင့် Valid Percent တွင်ရှိသည့် ကိန်းဂဏာန်းများဖြစ်သည်။




ပုံ(၇)

## ဘာသာပြန်ဆိုခြင်း

Both table and figure shows preference of color of respondents. 16 ouf ot 32 participants ( 50% percentage) are from public school as well as 16 of 32 participants (50 % percentage) are from private school.

**Gender**

| | | Frequency | Percent | Valid Percent | Cumulative Percent |
|---|---|---|---|---|---|
| Valid | Male | 15 | 46.9 | 46.9 | 46.9 |
| | female | 17 | 53.1 | 53.1 | 100.0 |
| | Total | 32 | 100.0 | 100.0 | |

ပုံ(၈)




ပုံ(၉)

**ဘာသာပြန်ဆိုခြင်း**

The table and graph show that 15 participants (46.9% percentage) were male and 17 participants ( 53.1 percentage) were female.

## မေးခွန်းတစ်ခုစီ၏ ပျမ်းမျှတန်ဖိုးကိုလိုက်ရှာနည်း

စစ်တမ်းကောက်ပြီး သုတေသနပြုလုပ်ရသည့် အရည်အသွေးသုတေသနတိုင်းတွင် မိမိတို့အသုံးပြုထားသည့် မေးခွန်းတစ်ခုစီ၏ "mean and standard deviation" တန်ဖိုးကို လိုက်ရှာပြီးဖော်ပြရသည်။ ယင်းသို့ဖော်ပြရာတွင် အောက်ပါအတိုင်း နည်းလမ်း(၂)ဖြင့် ဆန်းစစ်နိုင်သည်။

ပထမ နည်းလမ်း (၁)

၁။ **"Descriptive File"** ကိုဖွင့်ပါ။ "Analyze" ကိုနှိပ်ပါ။ "Descriptive Statistics" မှ "Frequencies" ကိုရွေးပါ။




ပုံ(၁)

၂။အောက်ပါအတိုင်း “Box” တစ်ခုပေါ်လာပါလိမ့်မည်။၄င်း “Box” အတွင်းသို့ ဆန်းစစ်ရှာဖွေလိုသော မေးခွန်းများကို ရွေးချယ်ပြီးထည့်ရပါမည်။




ပုံ(၂)

၃။ “Box” အတွင်းသို့ ဆန်းစစ်ရှာဖွေလိုသော မေးခွန်းများကို ရွေးချယ်ပြီးနောက် **“Statistics”** ကိုနှိပ်ပါ။




ပုံ(၃)

၄။ အောက်ပါအတိုင်း **"Frequencies: statistics"** ခေါင်းစဉ်ဖြင့် **"Box"** တစ်ခုထပ်မံ ပေါ်လာပါလိမ့်မည်။ ၎င်း "Box" တွင် **means, median,mode standard deviation** များပေါ်ထွက်လာစေရန် ဖော်ပြပါအတိုင်း အမှတ်ခြစ်ပေးပါ။ ပြီးနောက် **"Continue"** ကို ဆက်နှိပ်ပါ။




ပုံ(၄)

၅။ မူလနေရာကို ရောက်သွားပါလိမ့်မည်။ **Charts** များဖြင့်ဖော်ပြဖို့ရန် **"Charts"** ကိုဆက်နှိပ်ပါ။




ပုံ(၅)

၆။ အောက်ဖော်ပြပါပုံအတိုင်း **"Box"** တစ်ခုပေါ်လာမည်။ မိမိဖော်ပြချင်သည့် **"Charts"** ကိုအမှတ်ခြစ်ပါ။ ပုံတွင် **Pie charts** ဖြင့်ဖော်ပြဖို့ရန်အတွက် ၄င်းကိုအမှတ်ခြစ်ထားပါသည်။ ပြီးနောက် **"Continue"** ကိုဆက်နှိပ်ပါ။




ပုံ(၆)

၇။ မူလနေရာကို ပြန်ရောက်သွားပါလိမ့်မည်။ ပြီးနောက် အဖြေများ ထွက်ပေါ်လာစေရန် "OK" နှိပ်လိုက်ပါ။




ပုံ(၇)

# Output

| Statistics | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | Q1 | Q2 | Q3 | Q4 | Q5 | Q6 | Q7 | Q8 | Q9 | Q10 |
| N | Valid | 32 | 32 | 32 | 32 | 32 | 32 | 32 | 32 | 32 | 32 |
| | Missing | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 |
| Mean | | 3.6250 | 3.7813 | 3.6563 | 3.9063 | 3.8750 | 3.8125 | 4.0000 | 4.0313 | 3.8438 | 4.0313 |
| Median | | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 | 4.0000 |
| Mode | | 4.00 | 4.00 | 4.00 | 4.00 | 4.00 | 4.00 | 4.00 | 4.00 | 4.00 | 4.00 |
| Std. Deviation | | 1.07012 | .79248 | .93703 | .77707 | .65991 | .78030 | .62217 | .53788 | .67725 | .30946 |
| Range | | 4.00 | 4.00 | 4.00 | 4.00 | 3.00 | 4.00 | 3.00 | 2.00 | 3.00 | 2.00 |
| Minimum | | 1.00 | 1.00 | 1.00 | 1.00 | 2.00 | 1.00 | 2.00 | 3.00 | 2.00 | 3.00 |
| Maximum | | 5.00 | 5.00 | 5.00 | 5.00 | 5.00 | 5.00 | 5.00 | 5.00 | 5.00 | 5.00 |

ပုံ(၈)

ဒုတိယ နည်းလမ်း(၂)

၁။ "**Analyze**" ကိုနှိပ်ပါ။"**Scale**" ကို ဆက်သွားပါ။ "**Reliability analysis**" ရွေးပါ။




ပုံ(၁)

၂။ "**Box**" တခုပေါ်လာပါလိမ့်မည်။ အဖြေရှာလိုသည့် မေးခွန်းအားလုံးကို "select" လုပ်ပါ။ပြီးနောက် ညာဘက်သို့ ပို့လိုက်ပါ။




ပုံ(၂)

၃။ အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ ပြီးနောက် **"Statistics"** ကိုဆက်နှိပ်ပါ။




ပုံ(၃)

၄။ Descriptive group" တွင် Item, scale ၊ Scale if item deleted နှင့် "inter-item" တွင်ရှိသော "Correlation" ကိုအမှတ်ပေးပါ။ ပြီးနောက် **"Continue"** ကိုဆက်နှိပ်ပါ။




ပုံ(၄)

၅။ အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ **“Continue”** ကိုဆက်နှိပ်ပါ။




ပုံ(၅)

၆။ မူလနေရာကို ရောက်သွားပါလိမ့်မည်။ ရလာဒ် များထွက်ပေါ်လာစေရန် **“Ok”** ကိုနှိပ်ပါ။




ပုံ(၆)

၇။ ရလာဒ်ဇယားများအနက် **"Item Statistics"** ဇယားကွက်ကိုသာ ယူပါ။

**Item Statistics**

| | Mean | Std. Deviation | N |
|---|---|---|---|
| Q1 | 3.6250 | 1.07012 | 32 |
| Q2 | 3.7813 | .79248 | 32 |
| Q3 | 3.6563 | .93703 | 32 |
| Q4 | 3.9063 | .77707 | 32 |
| Q5 | 3.8750 | .65991 | 32 |
| Q6 | 3.8125 | .78030 | 32 |
| Q7 | 4.0000 | .62217 | 32 |
| Q8 | 4.0313 | .53788 | 32 |
| Q9 | 3.8438 | .67725 | 32 |
| Q10 | 4.0313 | .30946 | 32 |

ပုံ(၇)

၈။ ဇယားကွက်ကို ပြန်လည်ပြင်ဆင်ခြင်း

| Questionnaires | Items | Mean | SD | N |
|---|---|---|---|---|
| Q1 | -------------------------- | 3.62 | 1.07 | 32 |
| Q2 | -------------------------- | 3.78 | .79 | 32 |
| Q3 | ---------------------- | 3.65 | .93 | 32 |
| Q4 | | 3.90 | .77 | 32 |
| Q5 | | 3.87 | .65 | 32 |
| Q6 | | 3.81 | .78 | 32 |
| Q7 | | 4.00 | .62 | 32 |
| Q8 | | 4.03 | .53 | 32 |
| Q9 | | 3.84 | .67 | 32 |
| Q10 | | 4.03 | .30 | 32 |

ပုံ(၈)

8 A

## မေးခွန်းတစ်ခုစီကို သဘောတူမှုအဆင့် စသည် လိုက်ရှာခြင်း

မေးခွန်းများဖြင့် စစ်တမ်းကောက်သုတေသနပြုရာတွင် မေးခွန်းများအလိုက် အဖြေအမျိုးမျိုး တို့ကိုကြိုတင်ပြင်ဆင်ကာ စီမံရသည်။ မေးခွန်းများသည် Yes နှင့် No, Liker Scale နှင့် Multiple Choice အမျိုးမျိုးစသည့်အမျိုးမျိုးရှိကြသည်။ ယင်းမေးခွန်းတစ်ခုစီကို မည်သို့ အဖြေပေးကြသည်ကို သိရှိဖို့ရန် စစ်ဆေးကြည့်နိုင်သည်။

### ဆန်းစစ်ပုံအဆင့်ဆင့်

၁။ **"Descriptive File"** ကိုဖွင့်ပါ။ "Analyze" ကိုနှိပ်ပါ။ "Descriptive Statistics" မှ "Frequencies" ကိုရွေးပါ။




ပုံ(၁)

၂။ အောက်ပါအတိုင်း "Box" တစ်ခုပေါ်လာပါလိမ့်မည်။၎င်း "Box" အတွင်းသို့ ဆန်းစစ်ရှာဖွေလိုသော မေးခွန်းများကို ရွေးချယ်ပြီးထည့်ရပါမည်။




ပုံ(၂)

၃။ အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ "Box" အတွင်းသို့ ဆန်းစစ်ရှာဖွေလိုသော မေးခွန်းများကို ရွေးချယ်ပြီးနောက် **"Statistics"** ကိုနှိပ်ပါ။




ပုံ(၃)

၄။ အောက်ပါအတိုင်း **"Frequencies: statistics"** ခေါင်းစဉ်ဖြင့် **"Box"** တစ်ခုထပ်မံပေါ်လာပါလိမ့်မည်။ ၄င်း "Box" တွင် **means, median,mode standard deviation** များပေါ်ထွက်လာစေရန် ဖော်ပြပါအတိုင်း အမှတ်ခြစ်ပေးပါ။ ပြီးနောက် **"Continue"** ကိုဆက်နှိပ်ပါ။




ပုံ(၄)

၅။ မူလနေရာ ကို ပြန်ရောက်သွားပါလိမ့်မည်။ **Charts** များဖြင့်ဖော်ပြဖို့ရန် **"Charts"** ကိုဆက်နှိပ်ပါ။




ပုံ(၅)

၆။ အောက်ဖော်ပြပါပုံအတိုင်း **"Box"** တစ်ခုပေါ်လာမည်။ မိမိဖော်ပြချင်သည့် **"Charts"** ကိုအမှတ်ခြစ်ပါ။ ပုံတွင် **Bar charts** ဖြင့်ဖော်ပြဖို့ရန်အတွက် ၄င်းကိုအမှတ်ခြစ် ထားပါသည်။ ပြီးနောက် **"Continue"** ကိုဆက်နှိပ်ပါ။




ပုံ(၆)

၇။ မူလနေရာကိုပြန်ရောက်ပါလိမ့်မည်။ ရလာဒ်များ ထွက်ပေါ်လာစေရန် **"Ok"** ကိုဆက်နှိပ်ပါ။




ပုံ(၇)

# Output

**Q1**

| | | Frequency | Percent | Valid Percent | Cumulative Percent |
|---|---|---|---|---|---|
| Valid | Strongly Disagree | 2 | 6.3 | 6.3 | 6.3 |
| | disagree | 4 | 12.5 | 12.5 | 18.8 |
| | Netural | 2 | 6.3 | 6.3 | 25.0 |
| | agree | 20 | 62.5 | 62.5 | 87.5 |
| | strongly agree | 4 | 12.5 | 12.5 | 100.0 |
| | Total | 32 | 100.0 | 100.0 | |




**Q2**

| | | Frequency | Percent | Valid Percent | Cumulative Percent |
|---|---|---|---|---|---|
| Valid | Strongly Disagree | 1 | 3.1 | 3.1 | 3.1 |
| | disagree | 2 | 6.3 | 6.3 | 9.4 |
| | Netural | 2 | 6.3 | 6.3 | 15.6 |
| | agree | 25 | 78.1 | 78.1 | 93.8 |
| | strongly agree | 2 | 6.3 | 6.3 | 100.0 |
| | Total | 32 | 100.0 | 100.0 | |




# ဇယားကွက်ကိုပြန်လည်စုပေါင်းရေးသားပုံ

အောက်ပါအတိုင်း ဇယားကွက်ကို စုပေါင်းပြင်ဆင်ကာ တင်ပြဆွေးနွေးနိုင်သည်။

| Items on Delegation | Agree | | Neither agree nor disagree | Disagree | Total |
|---|---|---|---|---|---|
| I am delegated duties by school principals | F | 97 | 33 | 40 | 170 |
| | % | 57 | 19 | 24 | 100% |
| I am directed by principal on how to perform the delegated duties | F | 94 | 44 | 32 | 170 |
| | % | 55 | 26 | 19 | 100% |
| I am guided by principal on how to perform the delegated duties | F | 92 | 41 | 37 | 170 |
| | % | 54.1 | 24.1 | 21.8 | 100% |
| I am supervised by principal on duties delegated to me | F | 94 | 42 | 34 | 170 |
| | % | 55.3 | 24.7 | 20 | 100% |
| I am rewarded by principal for the duties delegated to me | F | 76 | 37 | 57 | 170 |
| | % | 44.7 | 21.8 | 33.5 | 100% |
| My principal delegated duties me that I am knowledge about. | F | 89 | 41 | 40 | 170 |
| | % | 52.4 | 24.1 | 23.5 | 100% |
| My principal delegated me duties I am skilled at. | F | 102 | 27 | 41 | 170 |
| | % | 60 | 16 | 24 | 100% |
| My principal duties that I am talented at. | F | 84 | 38 | 48 | 170 |
| | % | 49.4 | 22.4 | 28.2 | 100% |
| My principal delegated me duties that I have no idea about. | F | 35 | 33 | 102 | 170 |
| | % | 20.6 | 19.4 | 60 | 100% |
| My principal delegated me duties I have no experience. | F | 41 | 24 | 105 | 170 |
| | % | 24.1 | 14.1 | 61.8 | 100% |

# မေးခွန်းများကို ပေါင်းယူခြင်း
# (Adding variable to mean)

မေးခွန်းလွှာများဖြင့် ဒေတာကောက်ယူပြီး သုတေသနများတွင် မေးခွန်းများ၏ စုစုပေါင်းတန်ဖိုးကို ပေါင်းယူရသည်။ မိမိ မေးခွန်းများ၏ စုစုပေါင်း ပျမ်းမျှ တန်ဖိုး (Average Scale) ကိုရှာလိုလျှင် ၎င်းအကြောင်းအရာတစ်ခုအတွက် မေးမြန်းထားသော မေးခွန်းအသီးသီး တို့ကိုပေါင်းပြီး "Scale Data" အဖြစ်ပထမဆုံး ဖန်တီးပါသည်။ အထူးသဖြင့် သီအိုရီများဖြင့် သုတေသနပြုလုပ်ရသည့် သုတေသနများဖြစ်သည့် -

၁။ စစ်တမ်းကောက်သုတေသနများနှင့်

၂။ ကောက်ချက်ချ သုတေသနများတွင် ပြုလုပ်ရသည်။

ကောက်ချက်ချသုတေသနများတွင် လွတ်လပ်ကိန်းဆိုင်ရာ မေးခွန်းများအပြင် မှီခိုကိန်းဆိုင်ရာ မေးခွန်းများကိုလည်း ပေါင်းယူရသည်။ မေးခွန်းတစ်ခုချင်းစီ၏ တန်ဖိုးကို ပေါင်းဖို့ရန်အတွက်

၁။ "**Adding Variable**" ဖိုင်ကိုဖွင့်ပါ။ "Transform" ကိုနှိပ်ပါ။ပြီးနောက် "Compute Variable" ကိုဆက်ရွေးပါ။




ပုံ(၁)

၂။ အောက်ပါအတိုင်း **“Box”** တစ်ခုမြင်ရပါလိမ့်မည်။(၁) **“Target Variable”** တွင် နာမည်တစ်ခုခုကို ရေးထည့်ပေးပါ။ ၂။ ပြီးနောက် မေးခွန်းများကိုထည့်ပြီးနောက် **“Function group”** တွင် **“All”** ကိုရွေးပါ။







၃။ ပြီးနောက် **Functions and Special Variables** တွင် **“Mean”** ကိုရွေးပါ။ ၄။ ပြီးနောက် မျှားကိုနှိပ်ပါ။







၅။ အောက်ပါအတိုင်းပေါ်လာပေမည်။ ၆။ ပြီးနောက် **“Ok”** ကိုနှိပ်ပြီး မေးခွန်းများကို ပေါင်းလိုက်ပါ။ ပြီးနောက်ပေါင်းလိုသော မေးခွန်းတစ်ခုစီကို မျှားဖြင့် ညာဘက်အခြမ်းသို့ ပို့ပါ။






၇။ အောက်ပါအတိုင်းမြင်ရပေလိမ့်မည်။ ပေါင်းလိုသောမေးခွန်းအားလုံးကိုထည့်ပါ။ ၈။ ပြီးနောက် **“Ok”** ကိုရွေးပါ။

Numeric Expression:
MEAN(Q1,Q2,Q3,Q4,Q5)

MEAN(numexpr,numexpr[,..]). Numeric. Returns the arithmetic mean of its arguments that have valid, nonmissing values. This function requires two or more arguments, which must be numeric. You can specify a minimum number of valid arguments for this function to be evaluated.

n condition)

6 OK Paste Reset Cancel Help

၉။ **“Data view”** တွင် မေးခွန်းများ၏ စုပေါင်းတန်ဖိုးတစ်ခုကို အောက်ပါအတိုင်း မြင်ရပါလိမ့်မည်။

| Democraticleadership |
|---|
| 24.00 |
| 31.00 |
| 33.00 |
| 38.00 |
| 40.00 |
| 40.00 |
| 38.00 |
| 40.00 |
| 42.00 |
| 40.00 |
| 36.00 |
| 37.00 |
| 39.00 |
| 38.00 |

၁၀။ **“Variable View”** တွင် **“Scale”** ဖြစ်နေပါလိမ့်မည်။ တကယ်လို့ **“Scale”** မဖြစ်နေဘူးဆိုလျှင် **“Measurement”**ကိုထောက်ပြီး **“Scale”** ကိုပြောင်းရမည်။

| | |
|---|---|
| Ordinal | Input |
| Ordinal | Input |
| Scale | Input |

ဇယားကွက်ကိုပြန်လည်ပြင်ဆင်နည်း

**Descriptive study on preference of transformational leadership style**

| Rank | Q-re | Items | Mean | SD | N |
|---|---|---|---|---|---|
| 1st | Q8 | -------------------- | 4.03 | .53 | 32 |
| 2nd | Q4 | ------------------- | 3.90 | .77 | 32 |
| 3rd | Q6 | ---------------------- | 3.81 | .78 | 32 |
| 4th | Q2 | ----------------- | 3.78 | .79 | 32 |
| 5th | Q1 | | 3.62 | 1.07 | 32 |
| Total average means | | | 19.15 | 2.62 | |

**Descriptive study on preference of transectional leadership style**

| Rank | Q-re | Items | Mean | SD | N |
|---|---|---|---|---|---|
| 1st | Q10 | | 4.03 | .30 | 32 |
| 2nd | Q7 | | 4.00 | .62 | 32 |
| 3rd | Q5 | | 3.87 | .65 | 32 |
| 4th | Q9 | | 3.84 | .67 | 32 |
| 5th | Q3 | | 3.78 | .79 | 32 |
| Total average | | | 19.40 | 1.88 | |

**Overall of preference of leadership style**

| Rank | Preference of leadership style | Mean | SD | N |
|---|---|---|---|---|
| 1st | Transectional leadership style | 19.40 | 1.88 | 32 |
| 2nd | Transformational leadership style | 19.15 | 2.67 | 32 |

## Cross-tabulation ဖြင့်ဆန်းစစ်ခြင်း

Cross-tabulation ဖြင့် စစ်ဆေးခြင်း၏ ရည်ရွယ်ချက်သည် မတူညီသည့် အုပ်စုကြား ဦးရေပမာဏနှင့် ရာခိုင်နှုန်းကွဲပြားခြားမှု ရှိပါသလားဆိုသည်ကို သိရှိရန်ပင်ဖြစ်သည်။

ဥပမာ-

Q1: Is there any difference of preference of leadership style between gender?

Q2: Is there any difference of preference of leadership style between Private and public school teachers?




ပုံ(၁)




ပုံ(၂)




ပုံ(၃)

## Output

**Q1 * Gender Crosstabulation**

| | | | Gender | | Total |
|---|---|---|---|---|---|
| | | | Male | female | |
| Q1 | Strongly Disagree | Count | 2 | 0 | 2 |
| | | % of Total | 6.3% | 0.0% | 6.3% |
| | disagree | Count | 4 | 0 | 4 |
| | | % of Total | 12.5% | 0.0% | 12.5% |
| | Netural | Count | 0 | 2 | 2 |
| | | % of Total | 0.0% | 6.3% | 6.3% |
| | agree | Count | 8 | 12 | 20 |
| | | % of Total | 25.0% | 37.5% | 62.5% |
| | strongly agree | Count | 2 | 2 | 4 |
| | | % of Total | 6.3% | 6.3% | 12.5% |
| Total | | Count | 16 | 16 | 32 |
| | | % of Total | 50.0% | 50.0% | 100.0% |

ပုံ(၄)

ဇယားကွက်ကို ပြန်လည်ပြင်ဆင်ခြင်း

| | Question 1 | | | | | |
|---|---|---|---|---|---|---|
| | **Male** | | **Female** | | **Total** | |
| | **Frequency** | **percent** | **Frequency** | **Percent** | **Fre** | **per** |
| Strongly disagree | 2 | 6.3% | 0 | 0.0% | 2 | 6.3% |
| Disagree | 4 | 12.5% | 0 | 0.0% | 4 | 12.5% |
| Netural | 0 | 0.0% | 2 | 6.3% | 2 | 6.3% |
| Agree | 8 | 25.0% | 12 | 37.5% | 20 | 62.5% |
| Strongly agree | 2 | 6.3% | 2 | 6.3% | 4 | 12.5% |
| Total | | | | | 100 | 100% |

Table shows that femal agree with of the respondents prefers white color ( accounted for 40% or 8 respondents) followed by other types of color (accounted for 25% and 5 respondents) and navy blue is preferred by 20% ( accounted for 4 respondents) ,followed by 15% and 3 respondents.

မှတ်ချက်။ အထက်ပါဆန်းစစ်နည်းတူ အခြားသော မေးခွန်းများကိုလည်း တစ်ခုချင်း ဆန်းစစ်ကာ အဖြေရှာပြီး တင်ပြပါလေ။

## Normal distribution ( Bell curve) ဖြစ် မဖြစ်စစ်ဆေးခြင်း

Independent variable နှင့် dependent variable ပါသည့် သုတေသန များတွင် မိမိတို့၏ လေ့လာမှုများ sig ဖြစ်/မဖြစ် မစစ်ဆေးခင် ၎င်း Independent variable များသည် Normal distribution ဖြစ် မဖြစ်ဆိုသည်ကို အရင်ဆုံး စစ်ဆေးရသည်။ Normal distribution ဆိုသည်မှာ မိမိ၏ သုတေသနစမ်းသပ်မည့် ကိန်းများသည် စိတ်ချကိန်းဖြင့် သတ်မှတ်ထားသည့် တန်ဖိုး၏ အတိုး အလျော့အတွင်း သို့မဟုတ် ၁. ၉၆ (၉၅%) ထက်လည်းမကြီးရ၊ ၎င်းထက်လည်း မငယ်ရသည့် တန်ဖိုးအတွင်း (within 1.96 or no more above 1.96 or no below 1.96) ရှိရမည်ဟု ဆိုပါသည်။




## ဆန်းစစ်ပုံအဆင့်ဆင့်

၁။ "Normal Dist" ကိုဖွင့်ပါ။ " Analyze" ကိုနှိပ်ပါ။ "Descriptive Statistics" မှ "Explore" ကိုရွေးပါ။




ပုံ(၁)

၂။အောက်ပါအတိုင်း "Box" တခုပေါ်လာပါလိမ့်မည်။ "Dependent list" တွင် Dependent variable ကိုထည့်ပါ။ "Factor List" တွင် Independent variable ကိုထည့်ပါ။ ပြီးနောက် "Plots"ကိုဆက်နှိပ်ပါ။




ပုံ(၂)

၃။အောက်ပါအတိုင်း "Box" တစ်ခုကျလာပေလိမ့်မည်။ အောက်ဖော်ပြပါအတိုင်း "Normality plots with tests" နှင့် stem and leaf ,histogram တို့ကို အမှတ်ခြစ်ပါ။ ပြီးနောက် "Continue" ကိုဆက်နှိပ်ပါ။




ပုံ(၃)

၄။ မူလနေရာကို ပြန်ရောက်သွားပါလိမ့်မည်။ ရလာဒ်များပေါ်လာအောင် “Ok” ကိုဆက်နှိပ်ပါ။




ပုံ(၄)

၅။ ရလာဒ်များထွက်ပေါ်လာသည့်အခါ အောက်ပါ ဇယားကွက်တွင် “Shapiro-Wilk” တွင် sig ဆိုသည့်နေရာကိုကြည့်ပါ။ ၄င်းသည် more than .05 ဖြစ်လျှင် Normal distributed ဖြစ်သည်။

**Tests of Normality**

| | | Kolmogorov-Smirnov[a] | | | Shapiro-Wilk | | |
|---|---|---|---|---|---|---|---|
| | Course | Statistic | df | Sig. | Statistic | df | Sig. |
| time | beginner | .159 | 5 | .200* | .990 | 5 | .980 |
| | intermediate | .300 | 5 | .161 | .885 | 5 | .335 |
| | advanced | .180 | 5 | .200* | .952 | 5 | .754 |

*. This is a lower bound of the true significance.

a. Lilliefors Significance Correction

ပုံ(၅)

**Interpretation:**

If sig is greater than 0.05/0.005, it is normal distribution.

If sig is less than 0.05/0.005, it is not normal distribution.

# Reliability test နှင့် Validity စစ်နည်း

မိမိတို့၏ သုတေသနတွင် သီအိုရီများကို သက်သေပြဖို့ရန် ဒေတာများ ကောက်ယူရာတွင် အသုံးပြုမည့် မေးခွန်းများသည် မည်မျှ ယုံကြည်စရာကောင်းသလဲ၊ ခိုင်မာမှုရှိသလဲဆိုသည်ကို မေးခွန်းတစ်ခုချင်းစီ စစ်ဆေးကြည့်ရမည်။ ၄င်းကို အစမ်းသဘောဖြင့် ဒေတာကောက် ယူပြီးနောက် စစ်ဆေးစမ်းသပ်ရခြင်းဖြစ်ပြီး မေးခွန်းများကို ခိုင်ခိုင်မာမာ တည်ဆောက်ခြင်း (**Item construction**) ဟုလည်း သိကြသည်။ တနည်းဆိုသော် မိမိ၏မေးခွန်းများကို **Validity** ဖြစ်အောင် ပြုလုပ်ခြင်းလည်းဖြစ်သည်။ ၄င်းကို စစ်တမ်းကောက်ယူပြီး သုတေသနပြု လုပ်ကြရသည့် စာရင်းအင်းအခြေပြု (သို့) အရေအတွက်ဗဟိုပြု သုတေသန တိုင်းတွင် စစ်ဆေးရသည်။ မေးခွန်းတစ်ခုစီတိုင်း၏တန်ဖိုးသည် လက်ခံထားသော ပမာဏထက် အရည်အသွေးမကောင်းလျှင် ၄င်းမေးခွန်းများကို ဖြုတ်သင့်လျှင်ဖြုတ်၊ ပြောင်းသင့်လျှင် ပြောင်းပြီး မေးခွန်းများကို ပြန်လည်ဆင်ရသည်။ ၄င်းတွင် -

၁။ **Reliability test**

၂။ **Correlation matrix**

၃။ **Item-total statistics ponfwdkYyg0ifonf/**

ဆန်းစစ်ပုံအဆင့်ဆင့်

၁။ "Pilot Test File" ကိုဖွင့်ပါ။ "Analyze" ကိုနှိပ်ပါ။ "Scale" ကို ဆက်သွားပါ။ "Reliability analysis" ရွေးပါ။




ပုံ(၁)

၂။ "Box" တခုပေါ်လာပါလိမ့်မည်။ အဖြေရှာလိုသည့် မေးခွန်းအားလုံးကို "Select" လုပ်ပါ။ပြီးနောက် ညာဘက်သို့ ပို့လိုက်ပါ။




ပုံ(၂)

၃။ အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ ပြီးနောက် "Statistics" ကိုဆက်နှိပ်ပါ။




ပုံ(၃)

၄။ “Descriptive group” တွင် Item, scale ? Scale if item deleted နှင့် “inter-item” တွင်ရှိသော “Correlation” ကိုအမှတ်ပေးပါ။




ပုံ(၄)

၅။အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ ပြီးနောက် “Continue” ကိုဆက်နှိပ်ပါ။




ပုံ(၅)

၆။ မူလနေရာကိုပြန်ရောက်သွားပါလိမ့်မည်။ အဖြေများထွက်ပေါ်လာစေရန် ၄င်းဇယား ကွက်တွင် “Ok” ကိုနှိပ်ပါ။




ပုံ(၆)

## ရလာဒ်များကို ဘာသာပြန်ဆိုခြင်း

ရလာဒ်တွင် ပထမဆုံးမြင်ရမည့် အရာသည် -

၁။ ပထမမြင်တွေ့ရမည့်အရာသည် Case Processing Summary ဖြစ်သည်။

၄င်းသည် မိမိ၏ ဒေတာများကိုဆန်းစစ်ရာတွင် “Total number of valid cases” များနှင့် ချန်လှပ်ထားခဲ့သော ဒေတာများတစ်စုံတစ်ရာရှိ မရှိဆိုသည်ကို ဖော်ပြသည်။

၂။ဒုတိယမြင်တွေ့ရမည့်အရာသည် Reliability Statistics ဖြစ်သည်။ ၄င်းသည် မိမိရွေးချယ် ထားသော မေးခွန်းအားလုံး၏ “Cronbach’s alpha” တန်ဖိုးကို ဖော်ပြသည်။ “Cronbach’s alpha” တန်ဖိုးသည် ၀. ၉၀၀. ဖြစ်မည်ဆိုလျှင် စိတ်ချယုံကြည်ရမှု အများဆုံးဟု သတ်မှတ်သည်။ “Cronbach’s alpha” တန်ဖိုးကိုဖော်သည့် ဇယားကွက်ကို စာမျက်နှာ (၈၇) တွင်ကြည့်ပါ။

၃။တတိယမြင်တွေ့ရမည့် ဇယားကွက်သည် “Item-statistics” ဖြစ်သည်။

၄။ စတုတ္ထ မြင်ရမည့်ဇယားကွက်သည် “Inter-Item Correlation Matrix” ဖြစ်သည်။ ၄င်း ဇယားကွက်တွင် မိမိသုံးစွဲမည့် မေးခွန်းတစ်ခုစီ၏ ဆက်နွယ်မှုအဆင့်ကိုဖော်ပြသည်။ တနည်း ဆိုသော် မိမိတို့၏ မေးခွန်းများမည်မျှ ခိုင်မာကြောင်း(Validity) ဖော်ပြသည်။ ကိန်းတစ်ခုစီ၏

တန်ဖိုးသည် အနည်းဆုံး “0.3” ရှိရမည်။ ၄င်းထက်နည်းသောပမာဏကို ပယ်ချရမည်။ ထို့အပြင် ၄င်းကိန်းတစ်ခုစီ၏ တန်ဖိုးသည် “ Positive” သာဖြစ်ရမည်။ ဆိုလိုသည်မှာ ကိန်းတစ်ခု၏အတက်အကျဖြစ်လျှင် အခြားကိန်းတစ်ခုတွင်လည်း အတက် အကျရှိသည်ဟု ဆက်နွယ်မှုကိုဖော်ပြသည်။ တကယ်လို့ “Negative” ဖြစ်နေလျှင် ၄င်းမေးခွန်းကို “Reverse” လုပ်ရမည်။

၅။ ပဉ္စမမြောက် မြင်တွေ့ရမည့်ဇယားကွက်သည် “Item-Total Statistics” ဖြစ် သည်။ ၄င်းဇယားကွက်တွင် စုစုပေါင်းတန်ဖိုးနှင့် ကိန်းတစ်ခုစီ၏ ဆက်နွယ်မှု အဆင့်ကို ဖော်ပြသည်။ ၄င်းဇယားကွက်တွင် “Correlated Item-total Correlation” နှင့် “ Cronbach’s Alpha if Item Deleted” ကိုကြည့်ရမည်။ “Correlated Item-total Correlation” တွင်ဖော်ပြထားသည့် ကိန်းဂဏန်းများသည် “Inter-Item Correlation Matrix” တွင်ဖော်ပြထားသော ကိန်းဂဏာန်းများနှင့်ဆက်နွယ်သည်။ ထို့အပြင် “Correlated Item-total Correlation” တွင်ဖော်ပြထားသော ကိန်းဂဏာန်းများနှင့် - Cronbach’s Alpha if Item Deleted” တွင် ဖော်ပြထားသော ကိန်းဂဏာန်းတို့ကြား လည်း ဆက်နွယ်မှုရှိသည်။

၆။ ဆဋ္ဌမမြောက် မြင်တွေ့ရမည့်ဇယားကွက်သည် mean, standard deviation, range etc ဖြစ်သည်။၄င်းတွင် Inter-item correlation တွင် လက်ခံသည့် range ပမာဏ ကိုဖော်ပြသည်။ Inter-item correlation တွင် လက်ခံထားသော range သည် 0.15 မှ 0.50 ဖြစ်သည်။ ၄င်းထက်ပမာဏနည်းလျှင် items များသည် တစ်ခုနှင့် တစ်ခု ဆက်နွယ်မှု မရှိကြောင်းကိုဖော်ပြသည်။ 0.50 များလျှင် items များသည် ယုံကြည်လက်ခံနိုင်စရာ အကောင်းဆုံး ဖြစ်ကြောင်းဖော်ပြသည်။

## Case Processing Summary

ဖော်ပြပါ ဇယားကွက်တွင် စုစုပေါင်း ဖြေဆိုကြသည့်အရေအတွက်သည် (၃၂)ဟု ဖော်ပြထားပြီး ၊ ပယ်ချန်ထားခဲ့သော အရေအတွက်သည် (၀)ခုရှိသည်ဟု ဖော်ပြထားသည်။ ထို့ကြောင့် လက်ရှိ ဆန်းစစ်ထားသော (ဦးရေ) အရေအတွက်သည် (၃၀)သာရှိကြောင်း ဖော်ပြထားသည်။

**Case Processing Summary**

| | | N | % |
|---|---|---|---|
| Cases | Valid | 30 | 100.0 |
| | Excluded[a] | 0 | .0 |
| | Total | 30 | 100.0 |

a. Listwise deletion based on all variables in the procedure.

## Reliability Statistics

ဖော်ပြပါ ဇယားကွက်တွင် မေးခွန်းစုစုပေါင်း၏ "Cronbach's Alpha" တန်ဖိုးသည် ".68" ဟုဖော်ပြထားပြီး လက်ခံနိုင်သော ပမာဏရှိသည်။

**Reliability Statistics**

| Cronbach's Alpha | Cronbach's Alpha Based on Standardized Items | N of Items |
|---|---|---|
| .686 | .663 | 10 |

## Item Statistics

အောက်ဖော်ပြပါ ဇယားကွက်တွင် မေးခွန်းတစ်ခုစီ၏ သမတ်တန်ဖိုးတို့ကို ဖော်ပြထားသည်။ ယခုဇယားကွက်ကိုလည်း မိမိတို့၏ စာတမ်းတွင်ထည့်သွင်းဖော်ပြရမည်။

**Item Statistics**

| | Mean | Std. Deviation | N |
|---|---|---|---|
| Q1 | 3.6000 | 1.10172 | 30 |
| Q2 | 3.7667 | .81720 | 30 |
| Q3 | 3.7000 | .91539 | 30 |
| Q4 | 3.4667 | .89955 | 30 |
| Q5 | 3.9000 | .80301 | 30 |
| Q6 | 3.8667 | .68145 | 30 |
| Q7 | 3.9667 | .55605 | 30 |
| Q8 | 3.8667 | .77608 | 30 |
| Q9 | 4.0333 | .61495 | 30 |
| Q10 | 4.0667 | .52083 | 30 |

## Correlation Matrix

အောက်ဖော်ပြပါ ဇယားကွက်တွင် မေးခွန်းတစ်ခုနှင့် တစ်ခုကြား ဆက်နွယ်မှု အဆင့်ကို ဖော်ပြထားသည်။ ၎င်းဆက်နွယ်မှုများသည် အပေါင်းနှင့်အနှုတ်ကြားတွင် ရပ်တည်သည်။

တနည်း ဆိုသော် ယခုဇယားကွက်သည် မိမိ၏မေးခွန်းများအနက် အနှုတ်တန်ဖိုးဖြင့် ဖော်ပြသော မေးခွန်းများ ရှိ မရှိဆိုသည်ကို စီစစ်ကြည့်ဖို့ရန်ပင်ဖြစ်သည်။ ထို့ကြောင့် ၎င်းကို Items construction ဟုလည်းခေါ်ကြသည်။ ယခု အောက်ဖော်ပြပါ ဇယားကွက်တွင် မေးခွန်းတစ်ခုနှင့် တစ်ခုကြားဆက်နွယ်မှုသည် အပေါင်း ဖြစ်မှ ကောင်းမွန် ကြောင်းသတ်မှတ်သည်။ ထို့အပြင် ၎င်းဆက်နွယ်မှု တန်ဖိုးသည်လည်း 0.3 ထက်မနည်းရပေ။ ဆက်နွယ်မှုတန်ဖိုးသည် 0.7 ထက်များလျှင် ၎င်းတို့၏ ဆက်နွယ်မှုသည် အကောင်းဆုံးဟု သတ်မှတ်သည်။ တစ်ဘက်တွင်မူ အနှုတ်ဖြင့်ဖော်ပြသော မေးခွန်းများနှင့် .3 ထက် နည်းသော မေးခွန်းများကို နှုတ်ပယ်ရမည်။ ယခုဇယားကွက်တွင် မေးခွန်း (၄) နှင့် (၇)သည် အနှုတ်သင်္ကေတဖြင့် ဖော်ပြပြီး မေးခွန်း(၈) သည် .3 ထက်နည်းနေသည်ကို တွေ့ရမည်။ ထို့ကြောင့် (၈) (၄) နှင့် (၇) တို့ကို ပယ်ထုတ်ရမည်။

**Inter-Item Correlation Matrix**

| | Q1 | Q2 | Q3 | Q4 | Q5 | Q6 | Q7 | Q8 | Q9 | Q10 |
|---|---|---|---|---|---|---|---|---|---|---|
| Q1 | 1.000 | .659 | .595 | -.118 | .616 | .294 | -.248 | .016 | .326 | .469 |
| Q2 | .659 | 1.000 | .502 | -.034 | .751 | .376 | .134 | -.051 | .359 | .362 |
| Q3 | .595 | .502 | 1.000 | -.034 | .474 | .265 | -.088 | .330 | .447 | .260 |
| Q4 | -.118 | -.034 | -.034 | 1.000 | -.315 | -.233 | -.244 | .438 | .158 | .226 |
| Q5 | .616 | .751 | .474 | -.315 | 1.000 | .479 | .070 | -.243 | .147 | .264 |
| Q6 | .294 | .376 | .265 | -.233 | .479 | 1.000 | .079 | -.035 | .093 | .026 |
| Q7 | -.248 | .134 | -.088 | -.244 | .070 | .079 | 1.000 | -.410 | -.198 | -.230 |
| Q8 | .016 | -.051 | .330 | .438 | -.243 | -.035 | -.410 | 1.000 | .299 | -.063 |
| Q9 | .326 | .359 | .447 | .158 | .147 | .093 | -.198 | .299 | 1.000 | .423 |
| Q10 | .469 | .362 | .260 | .226 | .264 | .026 | -.230 | -.063 | .423 | 1.000 |

## Item –Total Statistics

အောက်ဖော်ပြပါဇယားကွက်သည် မိမိ၏ မေးခွန်းများတွင် မည်သည့် အရာများကို ဖယ်ရှားရမည်ဆို သည်ကိုဖော်ပြသည်။ယင်းသို့ ဖယ်ရှား ခြင်းဖြင့်လည်း မိမိ၏ "Cronbach's Alpha" တန်ဖိုးကိုမြှင့်တင်နိုင်သည်။ ၎င်းဇယားကွက်တွင် "Correlated Item-total Correlation" နှင့် " Cronbach's Alpha if Item Deleted" ကိုကြည့်ပါ။၎င်းတို့သည် Correlation matirx နှင့်ဆက်နွယ်မှု ရှိသည်။ အထက်ပါဇယားကွက်တွင် မေးခွန်း (၄)၊(၇) နှင့် (၈) နေရာကိုကြည့်ပါ။ "Correlated Item-total Correlation" ၏ မေးခွန်း (၄) နှင့် (၇)တွင် အနှုတ်သင်္ကေတ ဖြင့်ဖော်ပြထား သည်ကိုတွေ့ရမှာဖြစ်ပြီး မေးခွန်း(၈)သည် .3 သည်ကို တွေ့ရမည်။ Cronbach's Alpha if Item Deleted" တွင်ရှိသည့် ဂဏန်းများကို ဆက်လက်ကြည့်ပါ။ ၎င်းအကွက်တွင်လည်း မေးခွန်း(၄)၊(၇)နှင့် (၈)တို့၏နေရာသည် အခြားသော မေးခွန်းများ၏ တန်ဖိုးထက် များပြား နေသည်ကိုတွေ့ရမှာဖြစ်ပြီး "Reliability test" တွင်ရှိသည့် "Cronbach's Alpha" ထက်များနေသည်ကိုတွေ့ရမည်။

**Item-Total Statistics**

| | Scale Mean if Item Deleted | Scale Variance if Item Deleted | Corrected Item-Total Correlation | Squared Multiple Correlation | Cronbach's Alpha if Item Deleted |
|---|---|---|---|---|---|
| Q1 | 34.6333 | 10.585 | .612 | .684 | .595 |
| Q2 | 34.4667 | 11.499 | .725 | .751 | .584 |
| Q3 | 34.5333 | 11.292 | .659 | .591 | .591 |
| Q4 | 34.7667 | 15.702 | -.046 | .429 | .739 |
| Q5 | 34.3333 | 12.575 | .521 | .738 | .628 |
| Q6 | 34.3667 | 14.171 | .302 | .263 | .670 |
| Q7 | 34.2667 | 16.892 | -.222 | .463 | .733 |
| Q8 | 34.3667 | 14.999 | .097 | .576 | .705 |
| Q9 | 34.2000 | 13.683 | .467 | .404 | .646 |
| Q10 | 34.1667 | 14.282 | .415 | .453 | .658 |

## Cronbach's Alpha တန်ဖိုးကို မြှင့်တင်နည်း (Improving Reliability)

Correlation Matrix နှင့် Item total statistc တွင် "Positive" ဖြစ်ရမည်၊ ထို့အပြင် ဆက်နွယ်မှုများသည် 0.3 ထက်ကြီးရမည်။ "Positive" မဖြစ်သော မေးခွန်းများ၊ 0.3 ထက်နည်းသော မေးခွန်းများကို ဖယ်ရှားရမည်။ပြီးနောက်"Reliability test" ကို ပြန်လည်စစ်ဆေးရမည်။

ယင်းသို့ မေးခွန်းများကို ဖယ်ရှားခြင်းဖြင့် Cronbach's Alpha တန်ဖိုးကို မြှင့်တင်နိုင်သည်။ Correlation Matrix နှင့် Item total statistc တွင် မေးခွန်း(၄)၊ (၇)နှင့်(၈)တို့ကို ဖယ်ရှားပါ။ ပြီးနောက် "Reliability Test" ကို စစ်ဆေးပါ။



## Reliability Statistics

အောက်ဖော်ပြပါဇယားကွက်တွင် "Cronbach's Alpha" တန်ဖိုးသည် ".82" ဟုဖော်ပြထားသည်။ အစောပိုင်း ဇယားကွက်နှင့်ပြန်လည်နှိုင်းယှဉ်ကြည့်ပါ။ အစောပိုင်းဇယားကွက် တွင် .68 ဟုဖော်ပြထားသည်ကိုတွေ့ရမည်။ ဖယ်ရှားရမည့် မေးခွန်းများကို ဖယ်ရှားလိုက် သည့်အတွက် တန်ဖိုးမြင့်တက်လာခြင်းဖြစ်သည်။

**Reliability Statistics**

| Cronbach's Alpha | Cronbach's Alpha Based on Standardized Items | N of Items |
|---|---|---|
| .824 | .817 | 7 |

## Inter-Item Correlation Matrix

အောက်ဖော်ပြပါဇယားကွက်တွင် မေးခွန်းတိုင်းသည် လက်သင့်ခံထားသည့် ပမာဏရှိသည်ကို မြင်တွေ့ရလိမ့်မည်။

**Inter-Item Correlation Matrix**

| | Q1 | Q2 | Q3 | Q5 | Q6 | Q9 | Q10 |
|---|---|---|---|---|---|---|---|
| Q1 | 1.000 | .659 | .595 | .616 | .294 | .326 | .469 |
| Q2 | .659 | 1.000 | .502 | .751 | .376 | .359 | .362 |
| Q3 | .595 | .502 | 1.000 | .474 | .265 | .447 | .260 |
| Q5 | .616 | .751 | .474 | 1.000 | .479 | .147 | .264 |
| Q6 | .294 | .376 | .265 | .479 | 1.000 | .093 | .026 |
| Q9 | .326 | .359 | .447 | .147 | .093 | 1.000 | .423 |
| Q10 | .469 | .362 | .260 | .264 | .026 | .423 | 1.000 |

## Item-Total Statistics

ဖော်ပြပါ ဇယားကွက်တွင်လည်း လက်ခံထားသည့် ပမာဏရှိသည်ကို တွေ့ရမည်။

**Item-Total Statistics**

| | Scale Mean if Item Deleted | Scale Variance if Item Deleted | Corrected Item-Total Correlation | Squared Multiple Correlation | Cronbach's Alpha if Item Deleted |
|---|---|---|---|---|---|
| Q1 | 23.3333 | 9.126 | .736 | .597 | .771 |
| Q2 | 23.1667 | 10.557 | .755 | .661 | .767 |
| Q3 | 23.2333 | 10.668 | .624 | .463 | .791 |
| Q5 | 23.0333 | 10.930 | .690 | .659 | .779 |
| Q6 | 23.0667 | 12.961 | .369 | .248 | .828 |
| Q9 | 22.9000 | 13.059 | .405 | .365 | .823 |
| Q10 | 22.8667 | 13.361 | .421 | .332 | .822 |

မှတ်ချက်။ 0.3 ထက်ငယ်သည့် ဆက်နွယ်မှုများ၊ "Negative" ဖြစ်သည့်ဆက်နွယ်မှုများကို အကြိမ်ကြိမ်စစ်ဆေးကာ ဖယ်ရှားလိုက် ပြန်လည်စစ်ဆေးလိုက် ပြုလုပ်ရမည်။

**Reliability** ဇယားကွက်

| Cronbach's Alpha value | Interpretation |
|---|---|
| 90 and above | Excellent |
| 80-89 | Good |
| 70-79 | fair |
| 60-69 | Acceptable |
| .59-below | Poor |

Ref: Ronald D. Yockey (2011), *SPSS DEMYSTIFIED: A Step-by-Step Guide to Successful Data Analysis.*

# Correlation Matrix ကို Pearson ဖြင့်စမ်းသပ်နည်း

Correlation Matrix ကို Pearson Correlation ဖြင့် ဆန်းစစ်နိုင်သေးသည်။ သို့ပေမယ့် Pearson Correlation တွင် Significane တန်ဖိုးကိုလည်း ဖော်ပြတတ်သည်။ Correlation Matrix ကိုစစ်ဆေးကြည့်ရာတွင် မေးခွန်းအားလုံးသည် "Positive" ဖြစ်ရမည်။ ထို့အပြင် Correlation သည်လည်းအနည်းဆုံး .3 ရှိရမည်။

**ဆန်းစစ်ပုံအဆင့်ဆင့်**

၁။ "Pilot Test" ကိုဖွင့်ပါ။ "Analyze" ကိုနှိပ်ပါ။ပြီးနောက် "Correlate" ကိုရွေးပါ။ တဆက်တည်းမှာပင် " Bivariate" ကိုရွေးပါ။




ပုံ(၁)

၂။ အောက်ပါအတိုင်း "Box" တခုပေါ်လာပါလိမ့်မည်။ ၎င်း "Box" တွင် မိမိဆန်းစစ် အဖြေရှာလိုသော မေးခွန်းအားလုံးကို "Select" မှတ်လိုက်ပါ။




ပုံ(၂)

၃။ "Box" ပြီးနောက် ညာဘက် "Box" အတွင်းသို့ပြောင်းထည့်လိုက်ပါ။အောက်ပါ အတိုင်းမြင်ရပါလိမ့်မည်။ ပြီးနောက် "Option" ကိုနှိပ်ပါ။




ပုံ(၃)

၄။ "Box" တခုပေါ်လာမည်။ ၎င်းတွင် "Means and Standard deviations " ကို အမှတ် ခြစ်ပါ။ ပြီးနောက် "Continue" ကိုဆက်နှိပ်ပါ။




ပုံ(၄)

၅။ မူလနေရာကို ပြန်ရောက်သွားလိမ့်မည်။အဖြေများပေါ် လာစေရန် “Ok” ကိုဆက်နှိပ်ပါ။




ပုံ(၅)

၆။ **အောက်ပါအတိုင်း အဖြေပေါ်လာပါလိမ့်မည်။ (ပုံ-၆)**

**Correlations**

| | | Q1 | Q2 | Q3 | Q4 | Q5 | Q6 | Q7 | Q8 | Q9 | Q10 |
|---|---|---|---|---|---|---|---|---|---|---|---|
| Q1 | Pearson Correlation | 1 | .659$^{**}$ | .595$^{**}$ | -.118 | .616$^{**}$ | .294 | -.248 | .016 | .326 | .469$^{**}$ |
| | Sig. (2-tailed) | | .000 | .001 | .534 | .000 | .115 | .187 | .933 | .079 | .009 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q2 | Pearson Correlation | .659$^{**}$ | 1 | .502$^{**}$ | -.034 | .751$^{**}$ | .376$^{*}$ | .134 | -.051 | .359 | .362$^{*}$ |
| | Sig. (2-tailed) | .000 | | .005 | .857 | .000 | .041 | .480 | .790 | .051 | .049 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q3 | Pearson Correlation | .595$^{**}$ | .502$^{**}$ | 1 | -.034 | .474$^{**}$ | .265 | -.088 | .330 | .447$^{*}$ | .260 |
| | Sig. (2-tailed) | .001 | .005 | | .860 | .008 | .156 | .644 | .075 | .013 | .165 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q4 | Pearson Correlation | -.118 | -.034 | -.034 | 1 | -.315 | -.233 | -.244 | .438$^{*}$ | .158 | .226 |
| | Sig. (2-tailed) | .534 | .857 | .860 | | .090 | .216 | .195 | .015 | .405 | .230 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q5 | Pearson Correlation | .616$^{**}$ | .751$^{**}$ | .474$^{**}$ | -.315 | 1 | .479$^{**}$ | .070 | -.243 | .147 | .264 |
| | Sig. (2-tailed) | .000 | .000 | .008 | .090 | | .007 | .715 | .195 | .439 | .159 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q6 | Pearson Correlation | .294 | .376$^{*}$ | .265 | -.233 | .479$^{**}$ | 1 | .079 | -.035 | .093 | .026 |
| | Sig. (2-tailed) | .115 | .041 | .156 | .216 | .007 | | .679 | .855 | .624 | .892 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q7 | Pearson Correlation | -.248 | .134 | -.088 | -.244 | .070 | .079 | 1 | -.410$^{*}$ | -.198 | -.230 |
| | Sig. (2-tailed) | .187 | .480 | .644 | .195 | .715 | .679 | | .024 | .293 | .221 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q8 | Pearson Correlation | .016 | -.051 | .330 | .438$^{*}$ | -.243 | -.035 | -.410$^{*}$ | 1 | .299 | -.063 |
| | Sig. (2-tailed) | .933 | .790 | .075 | .015 | .195 | .855 | .024 | | .109 | .743 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q9 | Pearson Correlation | .326 | .359 | .447$^{*}$ | .158 | .147 | .093 | -.198 | .299 | 1 | .423$^{*}$ |
| | Sig. (2-tailed) | .079 | .051 | .013 | .405 | .439 | .624 | .293 | .109 | | .020 |
| | N | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |
| Q10 | Pearson Correlation | .469$^{**}$ | .362$^{*}$ | .260 | .226 | .264 | .026 | -.230 | -.063 | .423$^{*}$ | 1 |

# Table, Graphs
# များကို သိမ်းဆည်းနည်း

ဒေတာဆန်းစစ်ပြီးသော ဇယားများ၊ပုံများကို သိမ်းဆည်းရပါမည်။ သိမ်းဆည်းရာတွင် အောက်ပါအတိုင်း နည်းလမ်း (၂)ခုရှိပါသည်။

၁။ **Exploring** မှသိမ်းဆည်းနည်း

၂။ **Snipping tool** ဖြင့် သိမ်းဆည်းနည်း

၁။ **Explore** ဖြင့် သိမ်းဆည်းနည်း

၁။ **"File"** ကိုနှိပ်လိုက်ပါ။




Descriptive Statistics

| | N | Minimum | Maximum | Mean | Std. Deviation |
|---|---|---|---|---|---|
| Current Salary | 474 | $15,750 | $135,000 | $34,419.57 | $17,075.661 |
| Beginning Salary | 474 | $9,000 | $79,980 | $17,016.09 | $7,870.638 |
| Valid N (listwise) | 474 | | | | |

ပုံ(၁)

၂။ "Explore" ကို ထပ်နှိပ်ပါ။




ပုံ(၂)

၃။ ဤနေရာတွင် မိမိသိမ်းဆည်းလိုသည့် ဖိုင် ပုံစံများကို ပြောင်းလို့ရပါသည်။ပြီးနောက် “Ok” ကိုနှိပ်ပါ။ (ပုံ-၃)




၄။ ဖိုင်များသည် ကွန်ပျူတာ၏ “Document” နေရာတွင် သိမ်းထားပေးပါသည်။




ပုံ(၄)

၅။ "Output" ဆိုသည့် နာမည်ဖြင့် သိမ်းထားပေးပါလိမ့်မည်။ နာမည်ပြောင်းပြီး သိမ်းမည်ဆိုလျှင် အခြားနာမည်ပြောင်းလို့ရပါသည်။




ပုံ(၅)

၂။ Snipping Tool ဖြင့်သိမ်းဆည်းနည်း

၁။ ကွန်ပျူတိုင်းလိုလိုမှာတော့ "Snipping Tool" ပါရှိတာကိုတွေ့ရသည်။ မျှားပြထားသည့် နေရာတွင် "Snipping Tool" လို့ ရိုက်ထည့်ပါ။




ပုံ(၁)

၂။ **“Snipping Tool”** ပါရှိလျှင် ပုံပါအတိုင်းတွေ့ရပါလိမ့်မည်။




၃။ **“Snipping Tool”** ကိုနှိပ်ပါ။ **“ New”** ကိုမြင်ရပါလိမ့်မည်။




ပုံ(၃)

၄။ "New" ကိုနှိပ်ပြီး မိမိသိမ်းဆည်းချင်သည့် ဖိုင်-ဓါတ်ပုံ- ဇယားကွက် စသည်တို့ကို "Mouse" ဖိနှိပ်လိုက်ပြီး မိမိလိုချင်သည့် အတိအကျပမာဏဖြင့် ဖြတ်ယူပါ။ ပြီးလျှင် "File" ပေါ်လာလိမ့်မည်။ "File" ကိုဆက်နှိပ်ပါ။ "Save as" ကိုဆက်နှိပ်ပြီး မိမိကြိုက်သလို ဖိုင်နာမည်ပေးပြီးလျှင် "Save" ကိုနှိပ်၍ သိမ်းဆည်းလို့ရပါသည်။

ဥပမာ. . အောက်ဖော်ပြပါ ဓါတ်ပုံသည် ယခုစာမျက်နှာအား "Snipping Tool" ဖြင့် ယူထားသောပုံဖြစ်ပါသည်။

*Sayar Shwe Linn (Researcher)* **94 SPSS Guidebook**

၃။ "Snipping Tool" ကိုနှိပ်ပါ။ " New" ကိုမြင်ရပါလိမ့်မည်။

Snipping Tool
New
Cancel
Options
Select a snip type from the menu or click the New button.

ပုံ(၃)

၄။ "New" ကိုနှိပ်ပြီး မိမိသိမ်းဆည်းချင်သည့် ဖိုင်-ဓါတ်ပုံ- ဇယားကွက် စသည်တို့ကို "Mouse" ဖိနှိပ်လိုက်ပြီး မိမိလိုချင်သည့် အတိအကျပမာဏဖြင့် ဖြတ်ယူပြီးလျှင် "File" ပေါ်လာလိမ့်မည်။ "File" ကိုဆက်နှိပ်ပါ။ "Save as" ကိုဆက်နှိပ်ပြီး မိမိကြိုက်သလို ဖိုင်နာမည်ပေးပြီးလျှင် "Save" ကိုနှိပ်၍ သိမ်းဆည်းလို့ရပါသည်။ ဥပမာ. .

## Recode for Reversed Questionnaire ပြုလုပ်နည်း

မိမိတို့၏ သုတေသနများအလိုက် စစ်တမ်းကောက်ယူကြရာတွင် မေးခွန်းတိုင်းသည် Positive – ဖြစ်ရမည်။ သို့ရာတွင် လိုအပ်မှုအရ တချို့သော မေးခွန်းတို့ကို Negative ဖြင့် မေးရသည်လည်းရှိသည်။ ယင်းမေးခွန်းတို့ကို ဒေတာသွင်းသည့်အခါ Recode လုပ်ပြီးသွင်းရမည်။

ဥပမာ -

နံပါတ် ၁ ကို နံပါတ် ၅

နံပါတ် ၂ ကို နံပါတ် ၄

နံပါတ် ၃ ကို နံပါတ် ၃

နံပါတ် ၄ ကို နံပါတ် ၂

နံပါတ် ၅ ကို နံပါတ် ၁ စသည်ဖြင့် ပြောင်းပြန်လှန်ကာ ဒေတာသွင်းယူခြင်းဖြစ်သည်။ ယင်းသို့ဒေတာသွင်းယူရာတွင် -

၁။ မူလသွင်းထားသည့် နေရာနှင့် သီးခြားနေရာတစ်ခုခွဲကာ သွင်းယူခြင်း (Recode variables into different variable)

၂။ မူလသွင်းထားသည့် နေရာမှာပင် နဂိုသွင်းထားသည့်ဒေတာများကိုပြောင်းလဲ သွင်းယူခြင်း (Recode variables into same variable) ဟု (၂)မျိုးရှိသည်။

အထက်ပါ (၂)မျိုးအနက် သုတေသီများအနေနှင့် မိမိနှစ်သက်ရာ၊အဆင်ပြေရာကို အသုံးပြုနိုင်သည်။

၁။မူလသွင်းထားသည့် နေရာနှင့် သီးခြားနေရာတစ်ခုခွဲကာ သွင်းယူခြင်း **(Recode variables into different variable)**

## Recode စနစ်ဖြင့် ဒေတာသွင်းပုံအဆင့်ဆင့်

၁။ Recode variable ဖွင့်ပါ။ ပြီးနောက် "Transform" ကိုနှိပ်ပါ။ ပြီးနောက် " Recode into Different Variables" ကို ထပ်ရွေးချယ်လိုက်ပါ။




ပုံ(၁)

၂။ ပြောင်းလိုသည့် မေးခွန်းအားလုံးကို "Select" မှတ်ပါ။ တကယ်လို့ မိမိပြောင်းလဲလိုသည့် မေးခွန်းများသည် တစ်ခုထက်ပိုများနေလျှင် ၄င်းမေးခွန်းများသည် တူညီသော အမျိုးအစား ဖြစ်နေရမည်။ ဥပမာ မေးခွန်းတစ်ခုသည် "Numeric" ဟုဆိုလျှင် ကျန်သော မေးခွန်းများသည်လည်း "Numeric" ဖြစ်ရမည်။ "String " ဟုဆိုလျှင် ကျန်သော မေးခွန်းများသည်လည်း "String" ဖြစ်ရမည်ဟုဆိုလိုသည်။




ပုံ(၂)

၃။ " Output Variable" ကိုနှိပ်ပါ။ "Name" တွင် မိမိပြောင်းလဲလိုသည့် နာမည်တစ်ခုခု ကိုရေးထည့်ပါ။ ဥပမာ - "Q1" ကို " Question1" ဟု နာမည်ပြောင်းလိုက် သလိုမျိုးပင်။ ပြီးနောက် " Old and New Values" ကိုနှိပ်ပါ။




ပုံ(၃)

၄။ ပြောင်းလဲချင်သည့်အရာများကို "Old Value" တွင်ထည့်ပါ။တပြိုင်နက်တည်းမှာပင် ပြောင်းလဲမည့် အရာကို "New Value" တွင်ထည့်ပါ။ ဥပမာ - နံပါတ်(၁) ကို နံပါတ် (၅) အဖြစ်ပြောင်းလဲလိုလျှင် နံပါတ်(၁)ကို "Old Value" တွင်ထည့်ပြီး နံပါတ် (၅) ကို "New Value" တွင်ထည့်ရပါမည်။ ပြီးနောက် "Add " ကိုနှိပ်ပါ။ (တစ်ခြားပုံစံတွေကိုလည်း ဒီလိုပဲ ရေးထည့်ပြီး "Add" ကိုပဲ ဆက်နှိပ်ပါ) အကုန်လုံးပြီးပြီဆိုလျှင် "Continue" ကိုနှိပ်လိုက်ပါ။

| | | |
|---|---|---|
| Old | to | New |
| 1 | to | 5 |
| 2 | to | 4 |
| 3 | to | 3 |
| 4 | to | 2 |
| 5 | to | 1 |




ပုံ(၄)

၅။ မူနေရာကို ပြန်ရောက်သွားလိမ့်မည်။ အဖြေများသိရန် " Ok" ကိုနှိပ်လိုက်ပါ။




ပုံ(၅)

၆။ ပြီးနောက် " Data view " တွင် မူလဒေတာများနှင့် မတူညီသည့် ပုံစံဖြင့် သီးသီးခြားခြား ဖော်ပြထားသော " Question1" ကိုမြင်တွေ့ရပေလိမ့်မည်။ ၄င်းကို မူလဒေတာဖြစ်သည့် "Q1" နှင့် နှိုင်းယှဉ်ကြည့်ပါ။ ပြောင်းလဲသွားသည်ကိုတွေ့ရပေလိမ့်မည်။

| Q1 | Question1 |
|---|---|
| 1.00 | 5.00 |
| 1.00 | 5.00 |
| 2.00 | 4.00 |
| 2.00 | 4.00 |
| 4.00 | 2.00 |
| 4.00 | 2.00 |

ပုံ(၆)

(၂)မူလသွင်းထားသည့် နေရာမှာပင် နဂိုသွင်းထားသည့်ဒေတာများကိုပြောင်းလဲ သွင်းယူခြင်း **(Recode variables into same variable)**

## Recode စနစ်ဖြင့် ဒေတာသွင်းပုံအဆင့်ဆင့်

၁။ Recode variable ဖိုင်ကိုဖွင့်လိုက်ပါ။ ပြီးနောက် "Transform" ကိုနှိပ်ပါ။ ပြီးနောက် " Recode into Different Variables" ကို ထပ်ရွေးချယ်လိုက်ပါ။




ပုံ(၁)

၂။ ပြောင်းလိုသည့် မေးခွန်းအားလုံးကို "Select" မှတ်ပါ။ တကယ်လို့ မိမိပြောင်းလဲလိုသည့် မေးခွန်းများသည် တစ်ခုထက်ပိုများနေလျှင် ၎င်းမေးခွန်းများသည် တူညီသော အမျိုးအစား ဖြစ်နေရမည်။ ဥပမာ မေးခွန်းတစ်ခုသည် "Numeric" ဟုဆိုလျှင် ကျန်သော မေးခွန်းများသည်လည်း "Numeric" ဖြစ်ရမည်။ "String " ဟုဆိုလျှင် ကျန်သော မေးခွန်းများသည်လည်း "String" ဖြစ်ရမည်ဟုဆိုလိုသည်။




ပုံ(၂)

၃။ ပြောင်းလဲချင်သည့်အရာများကို "Old Value" တွင်ထည့်ပါ။တပြိုင်နက်တည်းမှာပင် ပြောင်းလဲမည့် အရာကို "New Value" တွင်ထည့်ပါ။ ဥပမာ - နံပါတ်(၁) ကို နံပါတ် (၅) အဖြစ်ပြောင်းလဲလိုလျှင် နံပါတ်(၁)ကို "Old Value" တွင်ထည့်ပြီး နံပါတ် (၅) ကို "New Value" တွင်ထည့်ရပါမည်။ ပြီးနောက် "Add " ကိုနှိပ်ပါ။ (တစ်ခြားပုံစံတွေကိုလည်း ဒီလိုပဲ ရေးထည့်ပြီး "Add" ကိုပဲ ဆက်နှိပ်ပါ) အကုန်လုံးပြီးပြီဆိုလျှင် "Continue" ကိုနှိပ်လိုက်ပါ။

| Old | to | New |
|---|---|---|
| 1 | to | 5 |
| 2 | to | 4 |
| 3 | to | 3 |
| 4 | to | 2 |
| 5 | to | 1 |




ပုံ(၃)

၄။ မူနေရာကို ပြန်ရောက်သွားလိမ့်မည်။ အဖြေများသိရန် “ Ok” ကိုနှိပ်လိုက်ပါ။




ပုံ(၄)

၅။ ပြီးနောက် “ Data view ” တွင် အစောပိုင်းထည့်သွင်းထားသော ပုံစံနှင့် မတူညီတော့ဘဲ ပြောင်းလဲသွားသည်ကိုတွေ့မြင်ရပေလိမ့်မည်။

| Q1 |
| --- |
| 1.00 |
| 1.00 |
| 2.00 |
| 2.00 |
| 4.00 |
| 4.00 |

| Q1 |
| --- |
| 5.00 |
| 5.00 |
| 4.00 |
| 4.00 |
| 2.00 |
| 2.00 |
| 3.00 |

*******************

# ကောက်ချက်ချစာရင်းအင်းပညာ မိတ်ဆက်

အရေအတွက်ဗဟိုပြုသုတေသနတွင် (၁) သရုပ်ပြ သုတေသန (၂) စမ်းသပ်စစ်ဆေးမှုများဖြင့်ပြုလုပ်ရသော သုတေသန (၃) ဆက်နွယ်မှုကိုလေ့လာရသည့် သုတေသန ဟု (၃) မျိုးရှိသည်။ ယင်း (၃)မျိုးအနက် (၂)နှင့် (၃) အပိုင်းကို ကောက်ချက်ချ စာရင်းအင်း ပညာရပ်ဟုခေါ်သည်။ ယခုစာအုပ်၏ ပထမပိုင်းတွင် သရုပ်ပြသုတေသနဆိုင်ရာ စာရင်းအင်းပညာအခန်းကဏ္ဍကို ရေးသားတင်ပြပြီးဖြစ်သည်။ ယခုအခန်းကဏ္ဍတွင် ကောက်ချက်ချစာရင်းအင်းဆိုင်ရာများကိုသာ ဦးစားပေးတင်ပြသွားမည်ဖြစ်သည်။

ကောက်ချက်ချစာရင်းအင်းဆိုသည်မှာ နမူနာမှ ရည်ရွယ်ဦးရေသို့ ကောက်ချက်ချခြင်းဖြစ်သည်။ တနည်းဆိုသော် ရည်ရွယ်ဦးရေသည် ဤသို့ဖြစ်သည် (သို့) ထို့သို့ဖြစ်သည် စသည်ဖြင့် ကြိုတင်မှန်းဆအဆိုပြုချက်ထုတ်ဆိုပြီး နမူနာဖြင့် လေ့လာရသည်။ ၄င်းနမူနာဦးရေတွင် ဖြစ်ပျက်နေသော၊ ပေါ်ထွက်လာသော အဖြေများကိုကြည့်ပြီး ရည်ရွယ် ဦးရေတွင်လည်း ဤသို့ပင်ဖြစ်သည် (သို့) ထိုသို့ပင်ဖြစ်သည်ဟု ကောက်ချက်ချခြင်းဖြစ်သည်။

**ယင်းကောက်ချက်ချမှုစာရင်းအင်းတွင်-**

၁။ စစ်ဆေးစမ်းသပ်မှုများပါဝင်သည့် ကောက်ချက်ချမှု (Experimental Inference)

၂။ ဆက်နွယ်မှုကိုလေ့လာရသည့် ကောက်ချက်ချမှု (Correlational Inference) ဟု (၂)မျိုးရှိသည်။

ယင်း စစ်ဆေးစမ်းသပ်မှုများပါဝင်သည့် ကောက်ချက်ချမှု စာရင်းအင်းတွင်လည်း-

(က) တူညီသည့် အုပ်စုတစ်ခုတည်းကိုစမ်းသပ်စစ်ဆေးကာ ကောက်ချက်ချခြင်း (Quasi-Experimental Inference)

(ခ) မတူညီသည့် အုပ်စုများကို စမ်းသပ်လေ့လာကာ ကောက်ချက်ချခြင်း(True-Experimental inference) ဟု (၂)မျိုးရှိသည်။

ယင်းကြောင့် ကောက်ချက်ချမှုစာရင်းအင်းတွင် စမ်းသပ်မှုများမှ ရရှိလာသော သတင်းအချက်များကို ဆန်းစစ်မှုလည်းပါဝင်သလို စူးစမ်းလေ့လာမှုများဖြင့် ပြုလုပ်ပြီး ထွက်ပေါ်လာသော သတင်းအချက်အလက်များကို ဆန်းစစ်ရသည့် အခန်းကဏ္ဍများလည်းပါဝင်သည်။

မှတ်ချက်။ ကောက်ချက်ချ သုတေသနဆိုင်ရာနှင့် ပတ်သက်ပြီးအကျယ်တဝင့်ကို -ဆက်နွယ်မှုပြ သုတေသနဆိုင်ရာ သုတေသနပြုလုပ်နည်းလမ်းညွှန်- တွင်ဖတ်ရှုပါ။

# ကြိုတင်မှန်းဆအဖြေ ကြံဆခြင်းအကြောင်း

# (Hypothesis)

ကြိုတင်မှန်းဆချက် (Hypothesis) သည် ကောက်ချက်ချသုတေသနတွင် တွင်တွင်ကျယ်ကျယ်သုံးစွဲကြသည်။ ကြိုတင်မှန်းဆချက်အဖြေသည် ရည်ရွယ်ဦးရေ နှင့်ပတ်သက်ပြီး သုတေသန၏ နောက်ဆုံးထွက်ပေါ်လာမည့်အဖြေသည် ဤသို့သာ ဖြစ်မည်ဟု တွေးထင်ထား၊ ယုံကြည်မျှော်လင့်ထားသော အဖြေမျိုးပင်ဖြစ်သည်။ ယင်းတွင် အကြောင်းအရာတစ်ခုနှင့် အခြားအကြောင်းအရာတစ်ခုကြား ကြောင်းကျိုးဆက်နွယ်မှုရှိသည် (သို့) အကြောင်းအရာတစ်ခု၏သက်ရောက်မှုသည် အခြားသော အကြောင်းအရာတစ်ခုအပေါ် အပြောင်းအလဲများဖြစ်စေသည်ဟု ယုံကြည်ထားမှုများ ပါဝင်သည်။ သို့ရာတွင် ယင်းယုံကြည် မျှော်လင့်ထားသော အဖြေမှန်ကန်သည်ဟု မိမိ၏ နမူနာမှ ရရှိလာသော အချက်အလက်က ထောက်ပံ့ ပေးနိုင်မလား၊ မပေးနိုင်ဘူးလား ဆိုတာကို မသေချာသေးပေ။ ဥပမာ- အအေးမိလို့ Naturopathic remedy ကိုသောက်ကြည့်တယ်ဆိုပါစို့။ အအေးမိဝေဒနာသည် (၂)ရက်လောက်ပဲကြာခဲ့တယ်။ နောက်တစ်ကြိမ် အအေးမိတော့ Over-the-counter pharmaceutical ကိုသောက်ကြည့်တော့ အအေးမိဝေဒနာသည် (၁)ပတ်လောက်ကြာခဲ့တယ်။ ဒါကို အအေးမိနေတဲ့ သူငယ်ချင်းတွေကို မေးစမ်းကြည့်တော့ သူတို့၏ အအေးမိဝေဒနာသည် Homeopathic remedy သောက်လိုက်တော့ (၃)ရက်လောက် အတွင်းမှာ ပျောက်သွားခဲ့ကြတယ်လို့ဆိုကြတယ်။ သုတေသီ တကယ်သိချင်တာက ဒီဆေးဝါးတွေဟာ အခြားသူတွေကိုပေးရင် တူညီသည့် အဖြေထွက်လာမလား၊ တူညီသည့် အကျိုးသက်ရောက်မှု ရှိမလား။မရှိဘူးလား ဆိုတာပါ။

အထက်ပါစမ်းသပ်မှုကို ပြုလုပ်ရာတွင် မိမိတို့ ယုံကြည်မျှော်လင့်ထားသည့် မှန်းဆအဖြေများကို ကြိုတင် ကြံဆထားရမည်။ ယင်းသို့ ရည်ရွယ်ဦးရေနှင့်ပတ်သက်ပြီး ကြိုတင် မှန်းဆအဖြေများ ကြံဆရာတွင် အောက်ပါအတိုင်း (၂)မျိုးရှိသည်။

## Hypothesis (၂) မျိုး

၁။ အခြေခံအဆို (သို့) မူလအဆို (တနည်း ) အိုက်ချ် နော့ (Null Hypothesis or H0) သည် စာရင်းအင်းပညာရပ် အခြေခံအဆိုပြုချက်လည်းဖြစ်သည်။ ၄င်းသည် အကြောင်းအရာ တစ်ခု၏ သက်ရောက်မှုသည် အခြားသော အကြောင်းအရာတစ်ခုကို အပြောင်းအလဲ မဖြစ်စေနိုင်၊ ပုံမှန်အတိုင်းသာဖြစ်မည် (သို့) အကြောင်းအရာတစ်ခုနှင့် အခြားအကြောင်းအရာတို့ကြား ကြောင်းကျိုးဆက်နွယ်မှု မရှိ (သို့) အကြောင်းအရာ (၂)ခုကြား တစ်စုံတခုအပေါ် သက်ရောက်မှုမှာ ကွဲပြားခြားနားမှုမျိုး မရှိဟု ယုံကြည်ထားခြင်းမျိုးဖြစ်သည်။ ၄င်းကို မှားယွင်းကြောင်း သက်သေပြဆိုရမည်ဖြစ်သည်။ ( Fasibality or To disapprove)

၂။ အခြားအဆို (သို့)မူကွဲအဆို (တနည်း) အိုက်ချ်ဝမ်း (Alternative Hypothesis or H1) သည် အခြေခံ မူလအဆို၏ ဆန့်ကျင်ဘက်ဖြစ်ပြီး သုတေသီ မျှော်လင့်ထားရှိသော ကြိုတင်မှန်းဆကြံဆချက်လည်း ဖြစ်သည်။ ၄င်းသည် - အကြောင်းအရာတစ်ခု၏ သက်ရောက်မှုသည် အခြားသော အကြောင်းအရာတစ်ခုကို အပြောင်းအလဲဖြစ်စေနိုင် (သို့) အကြောင်းအရာတစ်ခုနှင့် အခြားအကြောင်းအရာတို့ကြား ကြောင်းကျိုးဆက်နွယ်မှုရှိသည် (သို့) အကြောင်းအရာ (၂)ခုကြား တစ်စုံတခုအပေါ် သက်ရောက်မှုမှာ ကွဲပြားခြားနားမှုမျိုးရှိသည်ဟု ယုံကြည်ထားခြင်းမျိုးဖြစ်သည်။ ၄င်းကို မှန်ကန်ကြောင်း သက်သေပြဆိုရမည်ဖြစ်သည်။ ( A proof or To approve)

အထက်ပါ ကြိုတင်မှန်းဆကြံဆချက်(Hypothesis) သည် သုတေသန၏ နောက်ဆုံး ရလာဒ်ဖြစ်မည်ဟု သုတေသီမျှော်လင့်ထားသော အရာဖြစ်သောကြောင့် သက်သေပြဆိုဖို့ရန် အရေးကြီးသည်။ သို့ရာတွင် သီအိုရီကို ဆန့်ကျင်နိုင်သည့် သက်သေ အထောက်ထားများ ထွက်ပေါ်လာဖို့ အလားအလာများ ရှိကောင်းရှိလာနိုင်တာမို့ မိမိမျှော်လင့်ထားသော အဖြေသည် မှန်ကန်ကြောင်း ပြောဆိုရာတွင်လည်း ရာခိုင်နှုန်းပြည့် (၁၀၀%) သက်သေပြနိုင်ကြောင်း ပြောဆိုလို့ မရနိုင်သေး ပေ။ ထို့ကြောင့် မူလအဆို ( Null Hypothesis) မှားယွင်းကြောင်း သက်သေပြနိုင်မည်လား၊ ငြင်းပယ်ရမည်လား (သို့) လက်သင့်ခံရမည်လား ဆိုသည်ကို စစ်ဆေး ကြည့်ဖို့ရမည်ဖြစ်သည်။

သုတေသန၏ ရလာဒ်များအရ မူလအဆို ( Null Hypothesis) ကို ငြင်းပယ်ရမည် ဆိုလျှင်လည်း ၄င်းသည် မူလအဆို (Null hypothesis) မှားယွင်းသည်၊ မူကွဲအဆို (Alternative Hypothesis) မှန်ကန်သည်ဟု ဆိုလိုခြင်းမဟုတ်ပေ။ မူကွဲအဆို (Null Hypothesis) ကို ထောက်ပံ့ပေးနိုင်သော လုံလောက်သည့် ဒေတာများ ရှိသည်ဟုဆိုလိုသည်။ ထို့အပြင် မူလ အဆို (Null Hypothesis) ကို လက်ခံပြီး မူကွဲအဆို ( Alternative Hypothesis) ကို ငြင်းပယ်ရမည်ဟု ဆိုလျှင်လည်း ၄င်းသည် သီအိုရီမှားယွင်းသည်ဟု မဆိုလိုပေ။ ၄င်းအဆိုကို ထောက်ပံ့ဖို့ရန် ခိုင်မာပြီး လုံလောက်သည့် ဒေတာ၊ သတင်းအချက်အလက်များ မရှိဟုသာ ဆိုလိုခြင်းဖြစ်သည်။

## T- Test t & Hypothesis (၃)မျိုး

T-test သည် မှီခိုကိန်းအပေါ်တွင် မတူညီသည့် အုပ်စုတို့၏ သက်ရောက်မှုသည် ကွဲပြားမှုရှိသလား (သို့) တခုနှင့်တစ်ခုသည် သာလွန်မှု၊ နည်းပါးမှုရှိသလားဆိုသည်ကို နှိုင်းယှဉ်လေ့လာရာတွင် အသုံးပြုသည်။ ၎င်းတွင် ယာယီမှန်းဆအဖြေကိုကြိုတင်ကြံဆ ခြင်းသည် (၂)မျိုးရှိသည်။ ၁။ One-tailed Tests ၂။ Two-tailed Tests ။ ယင်း (၂)မျိုးတွင် မည်သည့် စမ်းသပ်မှုဖြင့် စမ်းသပ်ရမည်ဆိုသည်ကို ဆုံးဖြတ်ရမည်။ T-Test t& Hypothesis (၃) မျိုးဆိုလိုသည်မှာ - One-Tailed တွင် (က) Lower-Tailed (ခ) Upper-Tailed (၂)မျိုး နှင့် Two-Tailed Test (၁)မျိုး စုစုပေါင်း Hypothesis (၃)မျိုးဖြစ်ပါသည်။

### ၁။ **One tailed/ Directional hypothesis**

ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးကို ကြိုတင်သိရှိပြီး ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုးထက် နမူနာ၏ သမတ်ကိန်းတန်ဖိုးသည် ကြီးလိမ့်မည်၊ ငယ်လိမ့်မည် ဟု Normal Distribution ၏ အနားစွန်းတစ်ခုတည်းအောက်မှာ စမ်းသပ်စစ်ဆေးရသောကြောင့် One-tailed ဟုခေါ်သည်။ ရည်ရွယ်ဦးရေ၏ သမတ်ကိန်း တန်ဖိုးထက်ငယ်လိမ့်မည်ဟုယုံကြည် မျှော်လင့်ပြီး စစ်ဆေးရလျှင် Lower-tailed ဖြင့် စစ်ဆေးရမည်။ ၎င်းကို Normal Distribution ၏ ဘယ်ဘက်အနားအစွန်းဖြင့် စမ်းသပ်ရသောကြောင့် Left-tailed ဟုလည်းသိကြသေးသည်။ အခြားတစ်ဘက်တွင် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုးထက် ကြီးလိမ့်မည်ဟု မျှော်လင့်ပြီး စစ်ဆေးရလျှင် Upper –tailed ဖြင့် စမ်းသပ်ရမည်။ ၎င်းကို Normal distribution ၏ ညာဘက်အနား အစွန်းဖြင့် စမ်းသပ်ရသောကြောင့် Right-tailed ဟုလည်းသိကြသေးသည်။

### (က) **Lower –tailed or Left tailed**

နမူနာဦးရေ၏ သမတ်ကိန်းတန်ဖိုးနှင့် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုးကို နှိုင်းယှဉ်လျှင် နမူဦးရေ၏ သမတ်ကိန်းတန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုး ထက်ငယ်လိမ့်မည်ဟု မျှော်လင့်ထားသည့်ဟုဆိုလျှင် Lower-tailed ဖြင့် စမ်းသပ်စစ် ဆေးရမည်။ ဥပမာ -

စိတ်ကျရောဂါနှင့် ပတ်သက်ပြီး ဆေးဝါးတစ်ခုဖြင့် စမ်းသပ်စစ်ဆေးမည်ဆိုပါစို့။ ယင်းတွင် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးသည် ၂. ၅ ရှိသည်ဆိုပါစို့။ မိမိ၏ နမူနာ၏ သတ်မှတ်တန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးထက် နည်းလိမ့်မည်ဟု ယုံကြည်လျှင် Left-tailed ဖြင့် အဖြေထုတ်ရမည်။




(ခ) **Upper –tailed /Right-Tailed**

နမူနာ၏ သမတ်ကိန်းတန်ဖိုးနှင့် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုးကို နှိုင်းယှဉ်လျှင် နမူဦးရေ၏ သမတ်ကိန်းတန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုး ထက်ကြီးလိမ့်မည်ဟု မျှော်လင့်ထားသည့်ဟုဆိုလျှင် Upper-tailed ဖြင့် စမ်းသပ်စစ် ဆေးရမည်။ ဥပမာ -

စိတ်ကျရောဂါနှင့် ပတ်သက်ပြီး ဆေးဝါးတစ်ခုဖြင့် စမ်းသပ်စစ်ဆေးမည်ဆိုပါစို့။ ယင်းတွင် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးသည် ၂. ၅ ရှိသည်ဆိုပါစို့။ မိမိ၏ နမူနာ၏ သတ်မှတ် တန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးထက်ကြီး လိမ့်မည်ဟု ယုံကြည်လျှင် Right -tailed ဖြင့် အဖြေထုတ်ရမည်။




၂။ **Two Tailed/ Non-Directional Hypothesis**

နမူနာ၏ သမတ်ကိန်းတန်ဖိုးနှင့် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုးကို နှိုင်းယှဉ်လျှင် နမူနာ၏ သမတ်ကိန်းတန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်ကိန်းတန်ဖိုး သည် မတူကွဲပြား လိမ့်မည်ဟု မျှော်လင့်ထားသည့်ဟုဆိုလျှင် Two-tailed ဖြင့် စမ်းသပ်စစ် ဆေးရမည်။ ယခုစနစ်သည် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးကို သိရှိခြင်းမရှိသည့်အခါတွင် သုံးရမည်။ ဥပမာ-

စိတ်ကျရောဂါနှင့် ပတ်သက်ပြီး ဆေးဝါးတစ်ခုဖြင့် စမ်းသပ်စစ်ဆေးမည်ဆိုပါစို့။ မိမိ၏ နမူနာ၏ သမတ်တန်ဖိုးသည် ရည်ရွယ်ဦးရေ၏ သမတ်တန်ဖိုးနှင့် မတူကွဲပြား ဖြစ်လိမ့် မည်ဟု ယုံကြည်လျှင် Two-tailed ဖြင့် အဖြေထုတ်ရမည်။




**Z-Test** အကြောင်း

Z –test သည် အုပ်စု (၂)ခု၏ သမတ်တန်ဖိုးဟာကွဲပြားခြားနားမှုရှိပါသလား ဆိုသည်ကို ဆုံးဖြတ်ပေးဖို့ရန် အသုံးပြုသည့် စာရင်းအင်းသင်္ချာစနစ်တစ်ခုဖြစ်သည်။ စမ်းသပ်မှုတွင် နမူနာ(၃၀)အထက်ရှိရမည်ဖြစ်ပြီး Normal Distribution ဖြစ်သည့် စာရင်းအင်း စစ်ဆေးမှုတွင် အသုံးပြုသည်။ Z-test သည် T-test နှင့် အလွန်နီးစပ်သည်။ သို့ရာတွင် T-test သည် အုပ်စုအနည်းငယ်အတွင်း စမ်းသပ်လေ့လာရသည့်အခါ ပိုကောင်းမွန်ပြီး ရည်ရွယ်ဦးရေ၏ Standard Deviation ကို မသိရသည့်အခါ သုံးစွဲကြပေမယ့် Z-test ကို Standard Deviation များကို သိရှိရသည့်အခါ သုံးစွဲကြသည်။ Z-test တွင်လည်း One –Sample Z-test ရှိကြသေးသည်။

T-test အကြောင်း

T- test သည် T-distribution ကို အခြေခံပြီးခေါ်ဆိုခြင်းဖြစ်သည်။ ၎င်းကို မတူညီသည့် အုပ်စု (၂)ခုတို့၏ သတ်မှတ်တန်ဖိုး (Mean)ကို နှိုင်းယှဉ်ဖော်ပြလိုသည့်အခါ အသုံးပြုကြသည်။ ၎င်းသည်လည်း Z-test ကဲ့သို့ပင် Normal Distribution ဖြစ်သည့် အုပ်စု (၂)ခုကြားတွင် နှိုင်းယှဉ်ကြည့်ခြင်းဖြစ်သည်။ T-test ကို ရည်ရွယ်ဦးရေ ၏ ဇာတိကိန်း (Population Parameters) (တနည်း) သမတ်ကိန်းတန်ဖိုး (Mean) နှင့် ကိန်း ( Standard deviation) ကို မသိရှိသည့်အခါ အသုံးပြုကြသည်။၎င်းတွင် အောက်ပါအတိုင်း အုပ်စု (၃)ခုပါဝင်သည်။

1/ Independent samples t-test which compares mean for two groups

2/ Paired sample t-test which compares means from the same group at different times

3/ One sample t-test which tests the mean of a single group against a known mean.

## F test အကြောင်း

F-tests သည် F -test statistic/F-distribution ကိုအခြေခံကာခေါ်ဆိုခြင်းဖြစ်သည်။ F-test ကို ရိုနယ် ဖိရှာ (Ronald Fisher) မှဖော်ထုတ်ခဲ့ပြီး ၄င်းကို ဂုဏ်ပြုသောအားဖြင့် အမည် ပေးထားခြင်းဖြစ်သည်။ F-statistic သည် Population (၂)ခု ကြား Variance ဟာ တူညီမှုရှိကြသလားဆိုတာကို တိုင်းတာပြီး နှိုင်းယှဉ်လိုသည့်အခါတွင် အသုံးပြုသည်။ ၄င်းကို Anova , Regression နည်းစနစ်တို့တွင် အသုံးပြုကြသည်။ယင်းတွင် ANOVA နှင့် Regression တို့ပါဝင်သည် ။

ANOVA သည် လွတ်လပ်ကိန်းတစ်ခုသည် မှီခိုကိန်းတစ်ခုကို လွှမ်းမိုးမှု၊ သက်ရောက်မှု တစ်စုံတရာရှိသလား၊ လွတ်လပ်ကိန်းကြောင့် မှီခိုကိန်းမှာ အပြောင်းအလဲဖြစ်စေနိုင်သလား ဆိုသည်ကို စစ်ဆေးစမ်းသပ်ဖို့ရန် အသုံးပြုသည့် နည်းစနစ်တခုဖြစ်သည်။ ANOVA ကို Fisher analysis of variance ဟုလည်း ခေါ်ကြပြီး ၄င်းသည် T- Tests နှင့် Z-Tests ကို ချဲ့ထွင်ကာ ဖန်တီးထားသော နည်းစနစ်တစ်ခုလည်းဖြစ်သည်။ ANOVA စနစ်သည် Fisher ၏ "သုတေသနပညာရှင်များအတွက် စာရင်းအင်းပညာ" ဆိုသည့် စာအုပ်ပေါ်ထွက်လာပြီး နောက်ပိုင်း ၁၉၂၅ခုနှစ်မှာ နာမည်ကျော် လူသိများလာခဲ့သည်။ ယင်း ANOVA စနစ်တွင် အောက်ပါနည်းစနစ်များလည်း ပါဝင်ကြသေးသည်။

1. Repeated One-Way ANOVA
2.One-Way ANOVA
Kruskilwaili Test (Non-Parametric)
Mood media Test ( Non-Parametric)

3. Repeated Two-Way ANOVA
4.Two-Way ANOVA

5.Repeated Three-Way ANOVA
6. Three-Way ANOVA

7.One-Way MANOVA
8.Two-Way MANOVA စနစ်တို့ပါဝင်သည်။

## Type 1 error and Type 2 error နှင့် ၎င်း၏အကျိုးအပြစ်

သုတေသီတိုင်းသည် မိမိတို့၏ စမ်းသပ်လေ့လာမှုများကို မှန်ကန်လိုကြသည်။ ၎င်းတို့သည် အကြောင်းအရာ(၂)ခုကြားကွဲပြားခြားနားမှုရှိကြောင်း (သို့)အကြောင်းအရာ(၂)ခုတို့ကြား ကြောင်းကျိုးဆက်နွယ်မှုရှိကြောင်းကို ဖော်ထုတ်ပြချင်ကြသည်။ ဥပမာ- ပန်းနာရောဂါနှင့် ယဉ်ကြောပိတ်ဆို့ပြီး လေထုညစ်ညမ်းမှု တို့ကြားဆက်နွယ်မှု (၎င်းတို့ကြား ကြောင်းကျိုး ဆက်နွယ်မှုများ အမှန်တကယ်ရှိမည်ဆိုလျှင်ပေါ့။) ဆက်နွယ်မှုမရှိလျှင်လည်း ဆက်နွယ်မှု မရှိပါဆိုသည့် Null Hypothesis ကိုထောက်ပံ့ပေးသည့် လေ့လာမှုမျိုးကို ဖော်ပြချင်ကြသည်။

မှတ်ချက်။ Alternative Hypothesis သည်မှန်ကန်ကြောင်း သက်သေပြဖို့ရန်ကြိုးစားရသည့် အလုပ်က ပိုပြီး စိတ်လှုပ်ရှားစရာကောင်းပေမယ့် ရှာဖွေမှု (၂)မျိုးလုံးပင် အရေးကြီးသည်။

မည်သည့် သုတေသီကမှ ၎င်းတို့၏ သုတေသနရလာဒ်များကို မမှားယွင်းလိုကြပေ။ တကယ့်လက်တွေ့တွင် (က) အကြောင်းအရာ(၂)ခုသည် ကြောင်းကျိုးဆက်နွယ်မှုမရှိဆိုသည်ကိုလည်း မည်သည့် သုတေသီများမှ ရှာဖွေလိုကြလိမ့်မည်မဟုတ်ပေ။ ထိုနည်းတူ တကယ့်လက်တွေ့တွင် (ခ) ဆက်နွယ်မှု ရှိသည့်အရာများကိုလည်း မည်သည့် သုတေသီများမှ မရှာဖွေလိုဘဲ ရှိကြလိမ့်မည်မဟုတ်ပေ။ အထက်ပါ ကိစ္စ (၂)ရပ်သည် သုတေသနလုပ်ငန်းတွင် ပေါ်ပေါက်လာနိုင်သည်။ သို့ပေမယ့် သုတေသနလုပ်ငန်းတွင် ဖြစ်ကောင်းဖြစ်နိုင်သည့် အမှားအယွင်း (၂)မျိုးရှိသည်။

### Type 1 error အမှား

ပထမ အမှားကို Type 1 error ဟုခေါ်ပြီး၊ မငြင်းပယ်သင့်သည် Null hypothesis ကို မှားယွင်းစွာ ငြင်းပယ်မိသည့်အခါ ဖြစ်တတ်သည့်အမှားမျိုးဖြစ်သည်။ ဥပမာ - အကြောင်းအရာ (၂) ခုသည် လက်တွေ့တွင် အမှန်တကယ် ဆက်နွယ်မှုမရှိပါဘဲ ဆက်နွယ်မှုရှိကြောင်း ဖော်ပြသည့်အခါ လက်ခံမိသောကြောင့် ဖြစ်တတ်သည်။

### Type 2 error အမှား

ဒုတိယအမှားကို Type 2 error အမှားဟုခေါ်ပြီး၊ ငြင်းပယ်သင့်သည့် Null Hypothesis ကို မှားယွင်းစွာ လက်ခံမိသောကြောင့် ဖြစ်တတ်သည့် အမှားမျိုးဖြစ်သည်။ ဥပမာ -ကျန်းမာရေးညံ့ဖျင်းခြင်းသည် စိတ်ဓာတ်ကျမှုနှင့် လက်တွေ့တွင် ဆက်နွယ်မှု ရှိပါလျှက်နှင့် သုတေသန၏ ရလာဒ်တွင် ဆက်နွယ်မှုမရှိဟု ဖော်ပြသည့်အခါ Null Hypothesis ကိုမှားယွင်းစွာ လက်ခံမိသောကြောင့် ဖြစ်တတ်သည်။

အထက်ပါ အမှား (၂)မျိုးလုံးသည် အလွန်ပင်အရေးကြီးပြီး အကျိုးသက်ရောက်မှုများလည်း ရှိကြချည်းပင်ဖြစ်သည်။ ပန်းနာရောဂါကို အမှန်တကယ် အကျိုးသက်ရောက်မှုမရှိသည့်

ယဉ်ကြောပိတ်ဆို့မှုကြောင့်ဖြစ်ပေါ်လာသည့် လေထုညစ်နွမ်းမှုကို လျှော့ချဖို့ရန်အတွက် ဘတ်ဂျတ်များ အသုံးပြုကောင်းပြုနိုင်သည် (Type 1 error) ။အခြားတဘက်တွင်မူ ကလေးငယ်များ၏ ကျန်းမာရေးကို ယဉ်ကြောပိတ်ဆို့မှုကြောင့် ဖြစ်ပေါ်လာသည့် လေထုညစ်နွမ်းမှုသည် အမှန်တကယ် ထိခိုက်စေနိုင်ပေမယ့် ၎င်းကို လျှော့ချဖို့မကြိုးစားဘဲ လျစ်လျူပြုထားကောင်းထားနိုင်သည် (Type 2 error) ။

အထက်ပါ အမှား(၂)မျိုးလုံးကို မည်သည့် သုတေသနမှ ပယ်ဖျက်လို့မရနိုင်ပေမယ့် ကောင်းမွန်သည့် သုတေသနတစ်ရပ်ဖြစ်စေရန် နည်းပါးအောင် ပြုလုပ်နိုင်သည်။

Table - Conclusions in Test of Hypothesis

| | Do Not Reject $H_0$ | Reject $H_0$ |
|---|---|---|
| $H_0$ is True | Correct Decision | Type I Error |
| $H_0$ is False | Type II Error | Correct Decision |

## P value (Significant level) တန်ဖိုး

The probability value – or P-value တန်ဖိုးသည် Null-Hypothesis ကို ငြင်းပယ်ရမည်လား၊ လက်ခံရမည်လားဆိုသည်ကို ဆုံးဖြတ်ရသည့်အခါ များစွာအကူအညီပေးသည်။ အောက်ပါ ဇယားကွက်တို့ကို ကြည့်ပါ။

| Significance levels | | |
|---|---|---|
| p<0.05 | Statistically significant at the 5 % level | * |
| p<0.01 | Statistically significant at the 1 % level | ** |
| p<0.001 | Statistically significant at the 0.1 % level | *** |

| Significant level | Most significant level |
|---|---|
| 0.00 | 0.000 |
| 0.01 | 0.001 |
| 0.02 | 0.002 |
| 0.03 | 0.003 |
| 0.04 | 0.004 |
| 0.05 | 0.005 |

## တူညီသည့် အုပ်စုတစ်ခုအတွင်းစမ်းသပ်လျှက် နှိုင်းယှဉ်တင်ပြရသည့် စာရင်းအင်း (Casual Comparative/Quasi-Experimental Research)

Quasi-experiment research သည် တူညီသော အုပ်စုတစ်ခုတည်းကို အကြိမ်ကြိမ် အခါခါ စမ်းသပ်လေ့လာပြီး သုတေသနပြုလုပ်ကြသည့်အခါ အသုံးပြုကြသည့် စနစ်ဖြစ်သည်။ ၄င်းစနစ်တွင် -

၁။Paired sample T test ( Parametric)

Wilcoxon Signed-Rank Test (Non –parametric)

မတူညီသည့် စမ်းသပ်ကာလ (၂)ခုကြား သာလွန်မှု၊ ဆုတ်ယုတ်မှုနှင့် ကွဲပြားခြားနားမှုများ ရှိပါသလားဆိုသည် လေ့လာဖို့ရန်အတွက် အသုံးပြုသည်။

၂။Repeated One- way ANOVA( Parametric)

Friedman ANOVA ( Non-parametric)

(၂)ခုနှင့်အထက်ရှိသော မတူညီသည့် စမ်းသပ်ကာလအတွင်း ကွဲပြားခြားနားမှုများ ရှိပါသလား ဆိုသည်ကို လေ့လာဖို့ရန်အတွက် အသုံးပြုကြသည်။

၃။Repeated Two way-ANOVA

စမ်းသပ်မှုပစ္စည်း (၂)ခု၊ ၄င်းတို့တွင် အနည်းဆုံး (၂)ကြိမ်ပမာဏစီပါဝင်သည့် မတူညီသည့် စမ်းသပ်မှုတို့ကြား ကွဲပြားခြားနားမှုရှိသလား ဆိုသည်ကို လေ့လာဖို့ရန် အသုံးပြုကြသည်။

၄။Repeated Three Way ANOVA

စမ်းသပ်မှုပစ္စည်း (၃)ခု၊ ၄င်းတို့တွင် အနည်းဆုံး (၂)ကြိမ်ပမာဏစီပါဝင်သည့် မတူညီသည့် စမ်းသပ်မှုတို့ကြား ကွဲပြားခြားနားမှုရှိသလား ဆိုသည်ကို လေ့လာဖို့ရန် အသုံးပြုကြသည်။

ယင်းသို့စမ်းသပ်စစ်ဆေးရာတွင် (၁) အကြိမ်များဖြင့် စမ်းသပ်ခြင်း (၂)အခြေနေများဖြင့် စမ်းသပ်ခြင်းဟု (၂)မျိုးရှိသည်။ သို့ရာတွင် တူညီသော လူအုပ်စုတစ်ခုတည်းကိုသာ စမ်းသပ်ခြင်း မျိုးဖြစ်ရမည်ဖြစ်သည်။

***************




## Paired Sample T-test အကြောင်း

ယခု စနစ်သည် လူတစ်ယောက် တည်း (သို့) ပစ္စည်းတစ်ခုတည်းကို စမ်းသပ်မှု (၂) ကြိမ် ပြုလုပ်ပြီး ၄င်းတို့ကြား သာလွန်မှု၊ ဆုတ်ယုတ်မှု၊ ကွဲပြားခြားနားမှုစသည်တို့ကို တိုင်းတာပြီး နှိုင်းယှဉ်ဖော်ပြသည့်အခါ သုံးစွဲရသည့် စနစ်ဖြစ်သည်။ ၄င်းကို Dependent T-test /Correlated pairs t-test/ Matched Sample T-test ဟုလည်းခေါ်ကြသည်။

ယခုနည်းစနစ်တွင်-

1/Time point စမ်းသပ်ခြင်း

2/ Condition ဖြင့်စမ်းသပ်ခြင်း ဟု (၂)မျိုးရှိသည်။ မည်သည့်စမ်းသပ်မှုနှင့် စမ်းသပ်သည်ဖြစ်စေ စမ်းသပ်မှုသည် (၂) ကြိမ် (သို့) (၂)ခု ရှိရမည်။

ဥပမာ -

- လူတစ်ယောက်တည်း (သို့) ပစ္စည်းတစ်ခုတည်းကို မစမ်းသပ်ခင်နှင့် စမ်းသပ်ပြီး အခြေနေတို့ကို နှိုင်းယှဉ်လေ့လာခြင်းမျိုး။ (2 times)
- ရောဂါအမျိုးအမည်တူတစ်ခုကို မတူညီသည့် ဆေးရုံ (၂)ခုတွင် ကုသခံယူစဉ် ကုန်ကျသည့် စရိတ်ကိုနှိုင်းယှဉ်ခြင်းမျိုး။ (2 conditions)
- တူညီသည့် လူနာတစ်ယောက်၏ ရောဂါဝေဒနာတစ်ခုတည်းကို တိုင်းတာရာတွင် မတူညီသည့် ပစ္စည်း (၂)ခုအသုံးပြုကာ ရလာဒ်ကို နှိုင်းယှဉ် လေ့လာခြင်းမျိုး။ (2 conditions)

## Time Point Measurement ဖြင့်စမ်းသပ်ခြင်း

Time point measurement ဖြင့်စမ်းသပ်ခြင်းဟူသည် Dependent variable တစ်ခုအပေါ် Independent variable တစ်ခု၏ အကျိုးသက်ရောက်မှု မည်မျှရှိမည် ဆိုသည်ကို စမ်းသပ်တိုင်းတာရာတွင် ၄င်းစမ်းသပ်မည့် ပစ္စည်းဖြင့်မစမ်းသပ်ခင် (Before/ Pretest)

အခြေနေနှင့် စမ်းသပ်ပြီး (After/Posttest) အခြေနေ (၂)ခုကြား ကွာဟမှုကို တိုင်းတာခြင်း မျိုးကိုဆိုလိုသည်။ ၎င်းတွင် One tailed နှင့် Two tailed တို့ဖြင့် အဖြေရှာနည်း များပါရှိပါသည်။

ဥပမာ - အရက်မသောက်ခင် လူတစ်ယောက်၏ တုန့်ပြန်မှုနှင့် အရက်သောက်ပြီး တုန့်ပြန်မှုအခြေနေတို့ကို လူ(၅)ယောက်ဖြင့် စမ်းသပ်လေ့လာမည်ဆိုပါစို့။ အရက်မသောက်မီ ၎င်းတို့၏ အကြောင်းအရာတစ်ခုနှင့်ပတ်သက်ပြီး တုန့်ပြန်မှုကို ပထမဆုံးအကြိမ် တိုင်းတာရမည်။ အရက်သောက်ပြီးနောက် တစ်ကြိမ်တိုင်းတာရမည်။ ထို့နောက် ၎င်း(၂)ခုတို့ကြား မည်သည့်အချိန်သည် ပိုပြီး တုန့်ပြန်မှုပိုများသလဲ (သို့) ၎င်းအချိန်(၂)ခုတို့ကြား ကွဲပြားခြားနားမှုရှိသလား ဆိုသည်ကို လေ့လာရမည်။

**Title**: Effect of drinking on people's reaction.

**Objective**: To determine if there is difference of reaction between people before and after drinking.

**Q**: Is there any difference of reaction between people before and after drinking ?

**H1**: There is difference of reaction between people before and after drinking.

| No | Before drinking | After drinking |
|---|---|---|
| 1 | 992 | 1452 |
| 2 | 1110 | 1533 |
| 3 | 1086 | 1280 |
| 4 | 1442 | 1504 |
| 5 | 927 | 1093 |

## ဒေတာများကို ဆန်းစစ်ကြည့်ခြင်း

၁။ **"Paired Sample T -Test"**ကို ဖွင့်ပါ။ "Analyze" ကိုနှိပ်ပါ။ ပြီးနောက် "Compare means" ကိုရွေးပါ။ နောက်ထပ် "Box" တစ်ခု ထပ်ပေါ်လာမည်။ ၎င်း "Box" ထဲမှ "Paired Sample T -Test" ကိုရွေးပါ။




ပုံ(၁)

၂။ အောက်ပါအတိုင်း “Box” တစ်ခုထပ်မံပေါ်လာလိမ့်မည်။ ၎င်း “Box” တွင် ပထမအကြိမ်တိုင်းတာရာမှ ရရှိလာသည့် အမှတ်များကို “Variable1” သို့ပြောင်းထည့်လိုက်ပါ။ ဒုတိယအကြိမ် တိုင်းတာရာမှ ရရှိလာသည့် အမှတ်များကို “Variable2” သို့ပြောင်းထည့်လိုက်ပါ။




ပုံ(၂)

၃။ အောက်ပါအတိုင်းမြင်ရပါလိမ့်မည်။ ပြီးနောက် “Box” ၏ အောက်ခြေတွင်ရှိသည့် “Ok” ကိုနှိပ်လိုက်ပါ။ “Output” ပေါ်လာပါလိမ့်မည်။




ပုံ(၃)

**Output**

**Paired Samples Statistics**

| | | Mean | N | Std. Deviation | Std. Error Mean |
|---|---|---|---|---|---|
| Pair 1 | beforedrink | 1111.4000 | 5 | 198.87383 | 88.93908 |
| | afterdrink | 1372.4000 | 5 | 184.42424 | 82.47703 |

**Paired Samples Correlations**

| | | N | Correlation | Sig. |
|---|---|---|---|---|
| Pair 1 | beforedrink & afterdrink | 5 | .597 | .287 |

**Definition:**

**a.** - ဒီနေရာသည် စမ်းသပ်သည့် ကိန်းအားလုံး၏စာရင်းကိုဖော်ပြသည်။

**b. Mean** - ကိန်းအားလုံး၏ သမတ်ကိန်းတန်ဖိုး အသီးသီးကိုဖော်ပြသည်။

**c. N** - စမ်းသပ်လေ့လာရာတွင် ပါဝင်သည့် နမူနာအရေအတွက်ဖော်ပြသည်။

**d. Std. Deviation** - ကိန်းအားလုံး၏ Standard deviations ကိုဖော်ပြသည်။

**e. Std Error Mean** - သည် Sample Mean ၏ခန့်မှန်းထားသော Standard Deviation ဖြစ်သည်။ ဒီတန်ဖိုးဟာ square roote of sample size နှင့် Standard Deviation ကို စားလိုက်သည့်အခါ ရရှိလာသောတန်ဖိုးဖြစ်သည်။

**Correlation** - ဒီဇယားကွက်တွင် ရည်ညွှန်းထားသော ကိန်းတို့၏ ကြောင်းကျိုးဆက်နွယ်မှုကို ဖော်ပြသည်။

**Sig – sig** သည် P-value နဲ့သက်ဆိုင်မှုရှိသည်။ ၎င်း P-value ကို Alpha (0.05) နဲ့နှိုင်းယှဉ်လိုက်မည်ဆိုလျှင် P-value သည် Alpha(0.05) ထက်နည်းပါက Significance ဖြစ်သည်ဟုဆိုပါသည်။

Paired Samples Test

| | | Paired Differences | | | | | t | df | Sig. (2-tailed) |
|---|---|---|---|---|---|---|---|---|---|
| | | Mean | Std. Deviation | Std. Error Mean | 95% Confidence Interval of the Difference Lower | Upper | | | |
| Pair 1 | Average reaction before drinking - Average reaction after drinking | -261.000 | 172.453 | 77.123 | -475.129 | -46.871 | -3.384 | 4 | .028 |

Average reaction drinking-average reaction after drinking- ဒီကော်လံသည် တူညီသည့် နမူနာများကို စမ်းသပ်စစ်ဆေးရာတွင် ရရှိလာသည့် တန်ဖိုးများကိုဖော်ပြသည်။ ယင်းတွင် Before and After တို့ကြားကွာခြားမှုရှိသလားဆိုသည်ကိုဖော်ပြသည်။

**Mean** – mean သည် မတူညီသည့် စမ်းသပ်လေ့လာမှုကြားမှ သမတ်တန်ဖိုးကိုဖော်ပြသည်။

**Std. Deviation** – standard deviation သည် မတူညီသည့် သမတ်ကိန်းများ၏ Standard Deviation တန်ဖိုးကိုဖော်ပြသည်။

**Std Error Mean** - ဒီကော်လံသည် သမတ်ကိန်းတန်ဖိုးများ၏ ခန့်မှန်းထားသော Standard deviation တန်ဖိုးကိုဖော်ပြသည်။ ၎င်းသည် Standard Deviation ကို Sample size ၏

Square root ဖြင့်စားလိုက်သည့်အခါ ရရှိလာသည့် တန်ဖိုးဖြစ်သည်။

**95% Confidence Interval of the Difference** - ဒီကော်လံသည် Mean Difference အတွက် Confidence Interval ၏ lower နှင့် Upper bound (၂)ခုလုံးကိုဖော်ပြပေးသည်။

**T**– ဒီကော်လံသည် T-value အကြောင်းကိုဖော်ပြသည်။ ( It is the ratio of the mean of the difference to the standard error of the difference: -261.000/77.123= -3.384)

**Degrees of freedom** –Degree of freedom သည် နမူနာဦးရေကို (၁)ယောက်နှုတ်ပြီး ဖော်ပြသည်။ ဥပမာ မိမိ၏ နမူနာဦးရေသည် ၅ယောက်ဟုဆိုလျှင် Degree of freedom သည် (၄) ဖြစ်မည်။

**Sig. (2-tailed)** - ၎င်းသည် Significance ဖြစ်မှု၊မဖြစ်မှုကိုဖော်ပြသည်။

**ဇယားကွက်ကို ပြန်လည်ပြင်ဆင်နည်း**

SPSS မှထွက်ပေါ်လာသည့် ရလာဒ်ဇယားကွက်များကို မိမိ၏ သုတေသန စာတမ်းတွင် တိုက်ရိုက်အသုံးမပြုလိုပါလျှင် အောက်ပါအတိုင်း ထုတ်နှုတ်ကာ ဇယားကွက်ကို ပြန်လည် ပြ

| Participants | Mean | SD | T. value | df | Significant level |
|---|---|---|---|---|---|
| Average reaction before drinking | 1111.40 | 198.87 | -3.384 | 4 | .02 |
| Average reaction after drinking | 1372.40 | 184.42 | | | |

## T-value or T-distribution အကြောင်း

**T test** ဖြင့် စစ်ဆေးရသည့် သုတေသနတိုင်းတွင် T value သို့မဟုတ် T distribution များပါဝင်သည်။ T-value သည် အုပ်စု (၂)ခုနှိုင်းယှဉ်ရသည့် သုတေသနများတွင် အရေးကြီးသည်။ T တန်ဖိုး၏အဖြေကိုသိရှိဖို့ရန်အတွက် T distribution တွက်ချက်နည်းများရှိသည်။ သို့ပေမယ့် ဤနေရာတွင် အဆင်သင့်တွက်ချက် ထားပြီးဖြစ်တဲ့ ဇယားကွက်တစ်ခုဖြင့် တင်ပြသွားပါမည်။

**ဇယားကွက်ကြည့်နည်း**

စမ်းသပ်ပြီးထွက်ပေါ်လာသည့် အဖြေဇယားကွက်တွင် DF (Degree of Freedom) တန်ဖိုးကိုကြည့်ပါ၊ ပြီးနောက် T တန်ဖိုးကိုကြည့်ရပါမည်။ ဇယားကွက်တွင်ဖော်ပြထားသော ကိန်းဂဏန်းများထက် မိမိ၏ ရလာဒ်တွင်ဖော်ပြထားသော T value က ကြီးမှသာလျှင် Significance ဖြစ်မည်။

၁။ ပထမတွင် မိမိသတ်မှတ်ထားသော Confidence level နှင့် Significance ကိုကြည့်ပါ။

၂။ ပြီးနောက် One tailed or Two Tailed လားဆိုသည်ကိုကြည့်ပါ။

၃။ မိမိ၏ DF တန်ဖိုးကိုကြည့်ပါ။

ဥပမာ။ မိမိ၏ Confidence level သည် 95% - Significance သည် 0.05 ဖြစ်ပြီး DF တန်ဖိုးသည် (၄) ဟုဆိုကြပါစို့။

**t-distribution**

| | Confidence Level | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| | 60% | 70% | 80% | 85% | 90% | 95% | 98% | 99% | 99.8% | 99.9% |
| | Level of Significance | | | | | | | | | |
| 2 Tailed | 0.40 | 0.30 | 0.20 | 0.15 | 0.10 | 0.05 | 0.02 | 0.01 | 0.002 | 0.001 |
| 1 Tailed | 0.20 | 0.15 | 0.10 | 0.075 | 0.05 | 0.025 | 0.01 | 0.005 | 0.001 | 0.0005 |
| df | | | | | | | | | | |
| 1 | 1.376 | 1.963 | 3.133 | 4.195 | 6.320 | 12.69 | 31.81 | 63.67 | — | — |
| 2 | 1.060 | 1.385 | 1.883 | 2.278 | 2.912 | 4.271 | 6.816 | 9.520 | 19.65 | 26.30 |
| 3 | 0.978 | 1.250 | 1.637 | 1.924 | 2.352 | 3.179 | 4.525 | 5.797 | 9.937 | 12.39 |
| 4 | 0.941 | 1.190 | 1.533 | 1.778 | 2.132 | 2.776 | 3.744 | 4.596 | 7.115 | 8.499 |

မှတ်ချက်။ **T test** ဖြင့် အဖြေရှာဖွေသည့် သုတေသနတိုင်း **T distribution** ကိုတွက်ချက်စရာလိုအပ်သည် (သို့မဟုတ်) ဇယားကွက်ကိုကြည့်ရမည်။

## ဘာသာပြန်ဆိုနည်း (Interpretation)

**t (df) = t value, p = p value**

A paired-samples T test was calculated to compare the mean pretest score to the mean post test score.The mean on the pretest was 1111. 40 (SD: 198.87), and the mean on the posttest was 1372.40 (SD: 184.42). A significant increase from pretest to posttest was found = t (4): -3.384,p < .001)./ sig:0.02

Or

There was significant difference of mean between before drinking (M=1111. 40,sd=198.87) and after drinking ( M=1372.40 ,sd= 184.42) , t (4)=3.38,p< 0.05.

Or

The group without drinking ( M= 1111.40, SD=198.87) was less than those with drinking ( M= 1372.4,Sd=184.42) ,t (4)=3.38,p<0.05.

Or

There was significant difference of mean between people with drinking ( M=1372.40 ,sd= 184.42) and people without drinking (M=1111. 40,sd=198.87) and , t (4)=3.38,p< 0.05.

Or

Results showed participants made average of reaction of drinking (mean= 1372.40, SD = 184.42) than participants of no drinking (mean = 111.40, SD = 198.87) t (4)=3.38,p< 0.05.

**မှတ်ချက်။ one tailed** ၏အဖြေကို သိရှိလိုပါက Two tailed ၏အဖြေကို Two ဖြင့်စားပါ။ ထွက်ပေါ်လာသည့် ရလာဒ်သည် One tailed ၏အဖြေပင်ဖြစ်ပါသည်။

**Exercise :**

၁။ ဆေးဝါးတစ်ခု၏ အာနိသင်ကြောင့် တစ်ညလျှင် လူတစ်ယောက်၏ အိပ်စက်အနားယူနိုင်သည့် မိနစ်ပမာဏမည်မျှရှိသည်ကို လူပမာဏ (၁၀)ယောက်ဖြင့် လေ့လာမည်ဆိုပါစို့။ ဆေးဝါးမသောက်ခင် ၄င်း၏ အိပ်စက်နိုင်သည့် မိနစ်အရေအတွက်နှင့် ဆေးဝါးသောက်ပြီး အိပ်စက်အနားယူနိုင်သည့် မိနစ်ပမာဏတို့ကြား ကွဲပြားခြားနားမှုရှိပါသလားဆိုသည်ကို လေ့လာရမည်ဖြစ်သည်။

| *ID* | *Pre* | *Post* | *ID* | *Pre* | *Post* |
|---|---|---|---|---|---|
| 1 | 250 | 396 | 6 | 267 | 428 |
| 2 | 302 | 417 | 7 | 330 | 500 |
| 3 | 210 | 285 | 8 | 235 | 285 |
| 4 | 285 | 402 | 9 | 265 | 480 |
| 5 | 280 | 460 | 10 | 246 | 379 |

၂။ စိတ်ကျရောဂါ သက်သာဆေးဝါး(Prozac)သည် လူတစ်ယောက်ချင်းစီ ဖြစ်ပျက်နေသော စိတ်ကျရောဂါကို လျော့ချဖို့ရန်အတွက် မည်မျှအကျိုးများသနည်း၊ စိတ်ကျရောဂါကို အမှန်တကယ် သက်သာစေနိုင်စသလားဆိုသည်ကို နမူနာဦးရေ (၉)ယောက်ဖြင့် စမ်းသပ်လေ့လာရာ ထူးခြားမှုများရှိနိုင်ပါမည်လားဆိုသည်ကို လေ့လာရမည်ဖြစ်သည်။

| | moodpre | moodpost | diffrnce |
|---|---|---|---|
| 1 | 3.00 | 5.00 | 2.00 |
| 2 | .00 | 1.00 | 1.00 |
| 3 | 6.00 | 5.00 | -1.00 |
| 4 | 7.00 | 7.00 | .00 |
| 5 | 4.00 | 10.00 | 6.00 |
| 6 | 3.00 | 9.00 | 6.00 |
| 7 | 2.00 | 7.00 | 5.00 |
| 8 | 1.00 | 11.00 | 10.00 |
| 9 | 4.00 | 8.00 | 4.00 |

